နောက်ဆက်တွဲ(က)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၄၂) / စိုက်မွေး
ရက် စွဲ ၊၂၀၁၅ ခုနှစ်၊ မေ လ ၂၇ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၁. ၅. ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက-၄/ န-၀၂၂ / ၂၀၁၅ (၃၅၅)

၁။ မြန်မာနိုင်ငံ Top Home Made Foodstuff Trading Co., Ltd မှ (၅%)၊ ဦးစိုင်းလုံပေါင်း မှ (၁၇. ၅%)၊ ဦးစိုင်းဝမ်းမိုင်း မှ (၁၇. ၅%)နှင့် တရုတ်နိုင်ငံ Sichuan Jinhui Tianfu Investment Co., Ltd. မှ (၆၀%)တို့ ဖက်စပ်ပြုလုပ်၍ Megason Investment Co., Ltd တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ အကွက်အမှတ် (13A/2-1,A2)၊ အဆောက်အဦအမှတ် (5A)ရှိ မြေ ၁၁၂၄၆ စတုရန်းမီတာ (၂. ၇၇၉ ဧက)တွင် အထပ်(၂၆)ထပ်ပါ The Prestige Residential Complex Project (၄)လုံး တည်ဆောက်၍ အခန်းများငှားရမ်းခြင်းဝန်ဆောင်မှုလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံ လာခြင်းနှင့်ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်း မရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ကျွမ်းကျင်နိုင်ငံသားဝန်ထမ်း(၁၉၀)ဦး၊ နိုင်ငံခြားသား (၆၈)ဦးနှင့် ဆောက်လုပ်ရေးလုပ်သား (၅၀၀)ဦးတို့ အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ အကွက်အမှတ် (13A/2-1,A2)၊ အဆောက်အဦအမှတ်(5A)ရှိ မြေ ၁၁၂၄၆ စတုရန်းမီတာ (၂. ၇၇၉ ဧက)အား ၁ စတုရန်းမီတာလျှင် တစ်နှစ်အတွက် USD 31.12 နှုန်းဖြင့် နှစ်(၅၀) ငှားရမ်းလုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့ အရ လက်ခံနိုင်ခြင်းရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

D/2015/25 Cabinet.,(1)

၂။ အထက်ဖော်ပြပါ အချက်များကြောင့် (၂၁. ၅. ၂၀၁၅) ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၂၅/၂၀၁၅)၊ ဆုံးဖြတ်ချက်အပိုဒ် (၆၈)အရ Megason Investment Co., Ltd ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

အတွင်းရေးမှူး၊ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
မင်္ဂလာတောင်ညွန့်မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Megason Investment Co., Ltd
လက်ခံစာတွဲ
မျှောစာတွဲ

နောက်ဆက်တွဲ (ခ)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

M3-529
29/5

စာအမှတ် ၃(၁)/၁၁(က)(၅)/(၅၀၃ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ်၊ မေလ ၂၂ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်ပြန်ကြားခြင်း</u>

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၁ - ၅ - ၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက - ၄ / န - ၀၂၂ / ၂၀၁၅ ( ၃၅၆ )

၁။ မြန်မာနိုင်ငံ Top Home Made Foodstuff Trading Co.,Ltd မှ (၅%)၊ ဦးစိုင်းလုံပေါင်း မှ ( ၁၇.၅ % ) နှင့် တရုတ်နိုင်ငံ Sichuan Jinhui Tianfu Investment Co.,Ltd မှ ( ၆၀ % ) ဖက်စပ်ပြုလုပ်၍ Megason Investment Co.,Ltd တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး ၊ မင်္ဂလာတောင်ညွန့်မြို့နယ် ၊ အကွက်အမှတ် ( 13 A / 2 - 1 , A 2 )၊ အဆောက်အဦ အမှတ် ( 5 A ) ရှိ မြေ ( ၁၁၂၄၆ စတုရန်းမီတာ ) ( ၂.၇၇၉ ဧက ) တွင် အထပ် ( ၂၆ ) ထပ်ပါ The Prestige Residential Complex Project ( ၄ ) လုံး တည်ဆောက်၍ အခန်းများ ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်းအား နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာသဘောထားမှတ်ချက်ပြန်ကြား အပ်ပါသည်။

၂။ အဆိုပါ The Prestige Residential Complex Project ဆောက်လုပ်ပြီး ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရာတွင် မြေပြုပြင်ခြင်း၊ တည်ဆောက်ရေးလုပ်ငန်းသုံးပစ္စည်းများ နှင့် လုပ်သားများ၏ domestic waste များကြောင့် ပတ်ဝန်းကျင် ညစ်ညမ်းမှုဖြစ်ပေါ်နိုင်ခြင်း၊ လုပ်ငန်းသုံးစက်နှင့် ယာဉ်ယန္တရားများကြောင့် အသံဆူညံမှုဖြစ်ပေါ်နိုင်ခြင်း ၊ လူများနေထိုင်ချိန်တွင် စွန့်ပစ်ရေ ၊ စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ဖြစ်ပေါ်နိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ မည်သူမဆို သစ်တောနယ်မြေ နှင့် သစ်တောဖုံးလွှမ်းလျက်ရှိသော အစိုးရက စီမံခန့်ခွဲခွင့်ရှိသော မြေအတွင်း ဖွံ့ဖြိုးမှုလုပ်ငန်း (သို့အဟုတ်) စီးပွားရေး ၊ စီမံကိန်းလုပ်ငန်း တစ်ရပ်ရပ်ကို လုပ်ကိုင်ဆောင်ရွက်လိုလျှင် ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာန၏ ကြိုတင်ခွင့်ပြုချက်ကို ရယူရမည်ဟု ၁၉၉၂ ခုနှစ် ၊ သစ်တောဥပဒေပုဒ်မ ၁၂(က) အရ ပြဋ္ဌာန်းထားပါသဖြင့် အဆိုပြု မြေနေရာသည် သစ်တောနယ်မြေအတွင်း ကျရောက်ခြင်း မရှိပါက ထုတ်ပြန်ထားသော အထက်ပါ သစ်တောဥပဒေ ၊ နည်းဥပဒေ ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ ၊ နည်းဥပဒေများ နှင့် အညီ လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါသည်။

၄။ သို့ဖြစ်ပါ၍ Megason Investment Co.,Ltd မှ ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာတောင်ညွန့်မြို့နယ် ၊ အကွက်အမှတ် ( 13 A / 2 - 1 , A 2 ) ၊ အဆောက်အဦ အမှတ် ( 5 A ) ရှိ မြေ ( ၁၁၂၄၆ စတုရန်းမီတာ ) ( ၂.၇၇၉ ဧက ) တွင် အထပ် ( ၂၆ ) ထပ်ပါ The Prestige Residential Complex Project ( ၄ ) လုံး တည်ဆောက်၍ အခန်းများငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့် အညီ ဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့် ပတ်သက်၍ တစ်ဘက်တွင် ဖော်ပြထားသည့်အတိုင်း ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေး နှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံချက် ရေးဆွဲခြင်း ၊ ဆောက်လုပ်ခြင်း နှင့် လုပ်ငန်းလည်ပတ်ခြင်း အဆင့်ဆင့်တို့အတွက် ဆောင်ရွက်မည့် လုပ်ငန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် နည်းစနစ်များနှင့် စက်ကိရိယာများအသုံးပြုရန် နှင့် အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှုအတွက် အသားတင် အမြတ်ငွေ၏ ( ၂ % ) အား အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) ပတ်ဝန်းကျင် နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး ( သို့မဟုတ် ) ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း ( Environmental Impact Assessment - EIA ) လုပ်ငန်းဆောင်ရွက်ရန်၊

(ဂ) အဆိုပါ လေ့လာဆန်းစစ်တွေ့ရှိချက်များအပေါ် အခြေခံ၍ စွန့်ပစ်ပစ္စည်းများအား စနစ်တကျစွန့်ပစ်မည့် အစီအစဉ်များ အပါအဝင် ပတ်ဝန်းကျင်ဆိုင်ရာ အစီအမံများ၊ စောင့်ကြည့်လေ့လာမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည့်တို့ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Management Plan - EMP ) ရေးဆွဲတင်ပြရန် နှင့် EMP စီမံချက်တွင်ပါရှိသည့်အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ ၊ နည်းဥပဒေ ၊ လုပ်ထုံးလုပ်နည်းများ ၊ ညွှန်ကြားချက်များ ၊ စံချိန်စံညွှန်းများ နှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည် ဖော်ဆောင်ရွက်သွားရန်၊

(င) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံ ပြည်သူများ၏ဆန္ဒ နှင့် သဘောထားများ ရယူဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ခင်မောင်ရီ ၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ် ၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ် ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ် ၊ သစ်တောဦးစီးဌာန

လျှို့ဝှက်

နောက်ဆက်တွဲ (ဂ)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ရန်ကုန်တိုင်းဒေသကြီးအစိုးရ
ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ
မြို့တော်ခန်းမ၊ရန်ကုန်မြို့

စာအမှတ်၊ ၁၀၉ / ၀၁ ( ၁၉၆၇ ) / စသက
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ မေလ ၂၆ ရက်

M3-535
26

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

P.506
2.6.15

အကြောင်းအရာ။ ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ် ၅အေ၊ မြေကွက်အမှတ်( ၁၃A/၂-၁ )အေ၂တွင် အဆောက်အဦများဆောက်လုပ်ရန်ကိစ္စ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၁.၅.၂၀၁၅ ရက်စွဲပါ စာအမှတ် ၇က - ၄ / ၃ - ၀၂၂ / ၂၀၁၅ (၃၅၇)

၁။ ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ် ၅အေ၊ မြေကွက်အမှတ် ( ၁၃A/၂-၁ )အေ၂တွင် မြန်မာနိုင်ငံ Top Home Made Foodstuff Trading Co., Ltd. မှ (၅%)၊ ဦးစိုင်းလုံပေါင်းမှ (၁၇.၅%)၊ ဦးစိုင်းဝမ်းမိုင်းမှ (၁၇.၅%)နှင့် တရုတ်နိုင်ငံ Sichuan Jinhui Tianfu Investment Co., Ltd. မှ (၆၀%)တို့ ဖက်စပ်ပြုလုပ်၍ Megason Investment Co., Ltd. တည်ထောင်ပြီး အထပ်(၂၆)ထပ်ပါ The Prestige Residential Complex Project (၄)လုံး တည်ဆောက်၍ အခန်းများငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းနှင့်ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ အထက်ရည်ညွှန်းပါစာဖြင့် ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၏ သဘောထားမှတ်ချက်တောင်းခံလာပါသည်။

၂။ အမှုတွဲအားစိစစ်ရာတွင် အဆိုပြုနေရာရှိ မြေ ၂.၇၇၉ ဧကတွင် Basement + (၂၅)ထပ်အဆောက်အဦ (၄)လုံးဆောက် လုပ်ရန်ဖြစ်ပြီး Basement မှ 2nd Floor အထိ (၄-ထပ်)အား ကားရပ်နားရန်နေရာအဖြစ်အသုံးပြုထားပြီး 3rd Floor မှ 24th Floor အထိ (၂၂ ထပ်)အား လူနေအိမ်ခန်း(၄၈၄)ခန်းပါရှိသည့်ပုံစံဖြင့် တင်ပြထားပါသည်။ အဆောက်အဦများ၏ ပင်လယ်ရေမျက်နှာပြင်အထက်အမြင့် ၃၁၆'-၆" ခန့် ရှိကြောင်း၊ Shop ဧရိယာ (၁၅၅၇)စ/ပေ၊ လူနေအိမ်ခန်း (၄၈၄)ခန်းပါရှိသဖြင့် လိုအပ်ကားအစီးရေမှာ (၅၈၃)စီးခန့်ဖြစ်ပြီး တင်ပြထားသောကားအစီးရေမှာ (၅၉၂)စီးခန့် ဝင်ဆံ့နိုင်မှုရှိကြောင်း စစ်ဆေးတွေ့ရှိရပါသည်။

လျှို့ဝှက်

၃။ အဆိုပြုနေရာသည် ရွှေတိဂုံဘုရားကန့်သတ်ဇရိယာပြင်ပတွင် ကျရောက်လျက်ရှိသဖြင့် အဆောက်အဦများ၏ ပင်လယ်ရေမျက်နှာပြင်အထက်အမြင့်ပေ ၃၁၆'-၆" ခန့်ရှိသဖြင့်လည်းကောင်း၊ ကားလိုအပ်ချက် ကိုက်ညီပါသဖြင့်လည်းကောင်း၊ စည်ပင်သာယာလုပ်ထုံးလုပ်နည်းများနှင့်ကိုက်ညီမှုရှိသဖြင့်လည်းကောင်း ကန့်ကွက်ရန်မရှိကြောင်းနှင့် ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီရှိ ဌာနများဖြစ်သည့် အင်ဂျင်နီယာဌာန(အဆောက်အအုံ)၊ အင်ဂျင်နီယာဌာန(ရေနှင့်သန့်ရှင်းမှု)၊ အင်ဂျင်နီယာဌာန (လမ်းနှင့်တံတား)နှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သန့်ရှင်းရေးဌာနတို့၏ လုပ်ထုံးလုပ်နည်းများ၊ နည်းဥပဒေများနှင့်အညီ လိုက်နာဆောင်ရွက်ပြီး အထပ်မြင့်အဆောက်အအုံ တည်ဆောက်ရေးစီမံကိန်းများ ကြီးကြပ်စစ်ဆေးရေးပညာရှင်များအဖွဲ့ (CQHP)မှ စိစစ်ခွင့်ပြုမည့်ပုံစံများနှင့်အညီ ဆောက်လုပ်မည်ဆိုပါက ကန့်ကွက်ရန်မရှိကြောင်း တင်ပြအပ်ပါသည်။

ဥ ဏ္ဏ ဠ ( ကိုယ် စား )
(ကျော်စိုး၊ အတွင်းရေးမှူး)

မိတ္တူကို

တိုင်းဒေသကြီးအစိုးရအဖွဲ့၊ ရန်ကုန်တိုင်းဒေသကြီး

မျှောစာတွဲ

ရုံးလက်ခံ

နောက်ဆက်တွဲ (ဃ)

မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း
**MYANMAR ENGINEERING SOCIETY**
Hlaing Universities' Campus, Hlaing Township, Yangon, Myanmar
Tel : 95-1-519673 ~ 76, Fax : 95-1-519681
E-mail:mes@mptmail.net.mm, Website: www.mes.org.mm

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မအသ / MIC / ၁၂၅၉ / ၂၀၁၅။

ရက်စွဲ ၊ ၂၀၁၅ ခုနှစ်၊ ဇူလိုင်လ၊ ( ၂ ) ရက်။

**အကြောင်းအရာ။ Megason Investment Co.,Ltd ၏ The Prestige Residential Complex Project (၄)လုံး တည်ဆောက်၍ အခန်းများငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန်ကိစ္စ။**

ရည်ညွှန်းချက်။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၅ခုနှစ်၊ မေလ(၁၁)ရက် နေ့စွဲပါ စာအမှတ်၊ ရကာ-၄/နေ-၀၂၂/၂၀၁၅ (၃၅၈)

၁။ အထက်ဖော်ပြပါအကြောင်းအရာကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းသို့ သက်ဆိုင်ရာ Megason Investment Co.,Ltd မှ ၂၀၁၅ခုနှစ်၊ မေလ(၁၁)ရက်စွဲဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ အကွက်အမှတ် (13 A/2-1,A2)၊ အဆောက်အဦအမှတ်(5A) ရှိ မြေ ၁၁ ၂၄၆ စတုရန်းမီတာ( ၂.၇၈ဧက)တွင် အထပ်(၂၆)ထပ်ပါ The Prestige Residential Complex Project (၄)လုံး တည်ဆောက်၍ အခန်းများငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရန် အဆောက်အဦနှင့် ပတ်သက်သောပုံစံများနှင့် အသေးစိတ် ဇယားများကို လိုအပ်သော လမ်းညွှန်ချက်များပေးပါရန် တင်ပြခဲ့ပါသည်။

၂။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းတွင် ဖွဲ့စည်းထားသော MIC Projects Assessment Committee မှ ယင်းကိစ္စနှင့်ပတ်သက်၍ (၁၃-၅-၂၀၁၅)ရက်နေ့မှ (၁-၇-၂၀၁၅) ရက်နေ့အထိ Foundation အပိုင်း၊ Structure အပိုင်း၊ အဆောက်အဦ အတွက်အသုံးပြုမည့် ဆောက်လုပ်ရေးပစ္စည်းများကို စိစစ်သုံးသပ်ခဲ့ပါသည်။

၃။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၊ MIC Projects Assessment Committee အနေဖြင့် ရန်ကုန်မြို့တွင် တည်ဆောက်မည့် Residential Complex တည်ဆောက်မှုတွင် သတ်မှတ်ထားသော စံချိန်စံညွှန်းများနှင့်အညီ တည်ဆောက်ရန်နှင့် စံချိန်စံညွှန်းမီ တည်ဆောက်ရေးပစ္စည်းများ အသုံးပြု၍ တည်ဆောက်ပါက တန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

၄။ အဆောက်အဦပိုင်းတွင် ပြည်ပမှတင်သွင်းမည့် ဆောက်လုပ်ရေးပစ္စည်းများနှင့် အရေအတွက်ကို ပူးတွဲပါဇယားဖြင့် ထောက်ခံတင်ပြ အပ်ပါသည်။

| Sr. No | Particular | Unit | MIC တွင်ပါ အရေအတွက် | BQ ပါ အရေအတွက် | တောင်းခံသော အရေအတွက် |
|---|---|---|---|---|---|
| 1 | Cement | Ton | 23,500 | 23,500 | 22,138 |
| 2 | Rebar | Ton | 12,350 | 12,350 | 10,054 |
| 3 | Modeling wood board(0.9*1.8) | Pcs | 24,300 | 24,300 | 24,300 |
| 4 | Wood bar(4.5*7.5) | $m^3$ | 461 | 461 | 461 |
| 5 | Scaffold & Fastener(dia 40*2.8) | Ton | 356 | 356 | 356 |
| 6 | Binding wire | Ton | 40 | 40 | 40 |
| 7 | Window frame(Plastic plated steel) | $m^2$ | 25,000 | 25,000 | 25,000 |
| 8 | Handrail (Balcony) | m | 16,000 | 16,000 | 16,000 |
| 9 | Waterproof rolls | $m^2$ | 46,400 | 46,400 | 37,880 |
| 10 | Waterproof painting(Coating) | $m^2$ | 58,400 | 58,400 | 37,880 |
| 11 | Building top structure(Steel) | Ton | 314 | 314 | 167 |
| 12 | In-house doors | Set | 1,584 | 1,584 | 1,584 |
| [illegible] | Toilet Door | Unit | 2,112 | 2,112 | 2,112 |
| 14 | Balcony Door | Unit | 528 | 528 | 528 |
| 15 | Floor Ceramic Tiles | $m^2$ | 34,320 | 34,320 | 34,320 |
| 16 | Engineered Wood Floor | $m^2$ | 29,040 | 29,040 | 20,328 |
| 17 | Ceramic Wall Tile | $m^2$ | 44,880 | 44,880 | 44,352 |
| 18 | Painting | Gal | 23,640 | 23,640 | 23,640 |
| 19 | Integrated Kitchen Set | Unit | 528 | 528 | 528 |
| 20 | Shower Cabinet Set | Unit | 528 | 528 | 528 |
| 21 | Elevators | Set | 12 | 12 | 12 |

Ton = တန်, $m^2$ = စတုရန်းမီတာ, $m^3$ = ကုဗမီတာ, Gal = ဂါလံ, Pcs = ခုရေ

(ဦးဝင်းမြင့်)
ဥက္ကဋ္ဌ
မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း

MIC Projects Assessment Committee
Myanmar Engineering Society

Address: MES Building, Hlaing Universities' Campus, Hlaing Township, Yangon 11052, Myanmar.

မှတ်ချက်။ ။(၁) ယခုတင်ပြသောစီမံကိန်းစိစစ်ရာတွင် တင်ပြသောပုံစံ၊ဒီဇိုင်းများသည် အမှန်တကယ်အသေးစိတ်တည်ဆောက်မည့် ပုံစံ၊ဒီဇိုင်းများနှင့် ကွဲလွဲမှုရှိမည်ဆိုပါက ယခုတွက်ချက်ထားသောပစ္စည်းအရေအတွက်များမှာ အမှန်တကယ်သုံးစွဲမည့်အရေအတွက်နှင့် ကွာခြားနိုင်ပါသည်။ သို့အတွက် လိုအပ်ပါက Detail Estimate ရရှိပြီးသည့်အခါတွင် ပြန်လည်စိစစ်မှုများဆောင်ရွက်ရန် လိုအပ်ပါသည်။ (Subject to Check)

(၂) သက်ဆိုင်ရာမီးသတ်ဦးစီးဌာနမှချမှတ်ထားသော လမ်းညွှန်ချက်များအတိုင်းလိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

(ဝင်းနိုင်)

ဥက္ကဋ္ဌ

မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း

မိတ္တူကို - Managing Director, Megason Investment Co.,Ltd

- ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
- အတွင်းရေးမှူး၊ MIC Projects Assessment Committee
- ရုံးလက်ခံ / မျှောစာတွဲ

MIC Projects Assessment Committee
Myanmar Engineering Society

M3-691
24/7

နောက်ဆက်တွဲ ( င)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
အထပ်မြင့်အဆောက်အအုံတည်ဆောက်ရေးစီမံကိန်းများကြီးကြပ်စစ်ဆေးရေးပညာရှင်အဖွဲ့
အမှတ် ၂၂၈-၂၃၄ ဗိုလ်ချုပ်အောင်ဆန်းလမ်း
**Ph /Fax : 01-245670 / 09-731-89038**

စာအမှတ် O- ၅၁၀ / CQHP / ၂၀၁၅
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဇူလိုင်လ ( ၂၃ )ရက်

သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ။**

ရည်ညွှန်းချက်(၁)။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၁၁.၅.၂၀၁၅)ရက်စွဲပါစာအမှတ်၊ရကာ-၄/ န-၀၂၂/ ၂၀၁၅(၃၅၉)။
(၂)။ CQHP ၏(၁၈.၅.၂၀၁၅)ရက်စွဲပါ စာအမှတ် O-၃၁၈/ CQHP/ ၂၀၁၃။

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက်ပါစာဖြင့် မြန်မာနိုင်ငံ Top Home Made Foodstuff Trading Co., Ltd. မှ (၅%)၊ ဦးစိုင်းလုံပေါင်မှ (၁၇.၅%)၊ ဦးစိုင်းဝမ်းမိုင်းမှ (၁၇.၅%) နှင့် တရုတ်နိုင်ငံ Sichuan Jinhui Tianful Investment Co., Ltd. မှ (၆၀%)တို့ ဖက်စပ်ပြုလုပ်၍ Megason Investment Co., Ltd. တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ အကွက်အမှတ်(13A/2-1,A2)၊ အဆောက်အအုံ အမှတ် (5A) ရှိ မြေ ၁၁၂၄၆ စတုရန်းမီတာ (၂.၇၇၉ဧက)တွင် အထပ်(၂၆)ထပ်ပါ The Prestige Residential Complex Project (၄)လုံး တည်ဆောက်၍ အခန်းများငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်မည့်လုပ်ငန်းနှင့်ပက်သက်၍ အထပ်မြင့်အဆောက်အအုံတည်ဆောက်ရေးစီမံကိန်းများ ကြီးကြပ်စစ်ဆေးရေးပညာရှင်အဖွဲ့သို့ ရည်ညွှန်းချက်(၁)ပါစာဖြင့် သဘောထားမှတ်ချက် တောင်းခံခဲ့ခြင်းအပေါ် ရည်ညွှန်းချက်(၂)ပါစာဖြင့် သဘောထားမှတ်ချက်ပြန်ကြားပြီး ဖြစ်ပါသည်။

၂။ အထက်ပါကိစ္စနှင့်ပတ်သက်၍ ဗိသုကာပိုင်းဆိုင်ရာဒီဇိုင်းလိုအပ်ချက်များကို CQHP ၏ Guideline နှင့်အညီ ပြန်လည်ပြင်ဆင်ထားပြီးဖြစ်ကြောင်း တွေ့ရှိရပါသဖြင့် ကန့်ကွက်ရန်မရှိပါ။ သို့သော် Population Density မှာ တစ်ဧကလျှင် (၇၄၅)ဦး ဖြစ်၍များနေသည်ဟု သုံးသပ်ပါသည်။

(ဥက္ကဋ္ဌကိုယ်စား)
(မြင့်သိန်း-အတွင်းရေးမှူး)
အထပ်မြင့်အဆောက်အအုံတည်ဆောက်ရေး
စီမံကိန်းများကြီးကြပ်စစ်ဆေးရေးပညာရှင်အဖွဲ့
CQHP

မိတ္တူကို -

၁။ Megason Investment Co., Ltd။
၂။ ရုံးလက်ခံ။

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဩဂုတ်လ ၁၉ ရက်

အကြောင်းအရာ။ **သဘောထားမှတ်ချက်များ တောင်းခံခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံ Top Home Made Foodstuff Trading Co., Ltd မှ (၅%)၊ ဦးစိုင်းလုံပေါင်း မှ (၁၇.၅ %)၊ ဦးစိုင်းဝမ်းမိုင်း မှ (၁၇.၅ %) နှင့် တရုတ်နိုင်ငံ Sichuan Jinhui Tianfu Investment Co., Ltd မှ(၆၀%)တို့ ဖက်စပ်ပြုလုပ်၍ Megason Investment Co.,Ltd. တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ အထက်ပုဇွန်တောင်လမ်း၊အကွက်အမှတ်(13A/ 2-1,A2)၊အဆောက်အဦအမှတ်(5A)ရှိမြေ၁၁၂၄၆ စတုရန်းမီတာ(၂.၇၇၉ဧက)တွင် အထပ်(၂၆)ထပ်ပါ The Prestige Residential Complex Project (၄)လုံး တည်ဆောက်၍အခန်းများငှားရမ်းခြင်းဝန်ဆောင်မှုလုပ်ငန်းအားနိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဆန်းသွင် မှ အဆိုပြုချက် တင်ပြလာပါသည်။

၂။ အဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံတော်ဗဟိုဘဏ်သို့ သဘောထားမှတ်ချက်တောင်းခံမည့် **စာချော** တွင် လက်မှတ်ရေးထိုးပေးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

| | ရေးသွင်းသူ | စိစစ်သူ | ကြီးကြပ်သူ |
|---|---|---|---|
| လက်မှတ် | 19/8/15 | 19/8/15 | 19/8 |
| အမည် | (စိုးသီဟ) | (ဝင်းမို့မို့အေး) | (သန်းသန်းနု) |
| ရာထူး | ဒုတိယဦးစီးမှူး | ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး |

**ညွှန်ကြားရေးမှူး**

၃။ ဘာဝန်း (NPT)

ဦးဇော်ချုပ်

၄။ CBM သဘောထားမှတ်ချက်တောင်းပါသည်

DG

ညွှန်မှူး

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

ဖုန်း(၀၁) ၁၁-၆၅၈၁၂၃

စာအမှတ်၊ ရက- ၄ /န-၀၂၂/၂၀၁၅( ၆၂၈ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဩဂုတ်လ ၂၀ ရက်

သို့

မြန်မာနိုင်ငံတော်ဗဟိုဘဏ်

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်း ကိစ္စ**

ရည် ညွှန်း ချက် ။ Megason Investment Co., Ltd. ၏ ၄-၅-၂၀၁၅ ရက်စွဲပါတင်ပြစာ

၁။ မြန်မာနိုင်ငံ Top Home Made Foodstuff Trading Co., Ltd မှ (၅%)၊ ဦးစိုင်းလုံပေါင်း မှ (၁၇.၅ %)၊ ဦးစိုင်းဝမ်းမိုင်း မှ (၁၇.၅ %) နှင့် တရုတ်နိုင်ငံ Sichuan Jinhui Tianfu Investment Co., Ltd မှ(၆၀%)တို့ ဖက်စပ်ပြုလုပ်၍ Megason Investment Co., Ltd. တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ အထက်ပုဇွန်တောင်လမ်း၊ အကွက်အမှတ် (13A/ 2-1,A2)၊ အဆောက်အဦအမှတ်(5A)ရှိ မြေ ၁၁၂၄၆ စတုရန်းမီတာ (၂.၇၇၉ဧက)တွင် အထပ်(၂၆) ထပ်ပါ The Prestige Residential Complex Project (၄)လုံး တည်ဆောက်၍ အခန်းများ ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဆန်းသွင် မှရည်ညွှန်းပါစာဖြင့် အဆိုပြု ချက် တင်ပြလာပါသည်။

၂။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ အခန်း(၆) အပိုဒ်(၄၃)နှင့် (၄၅)ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကို စိစစ်ရာတွင် သက်ဆိုင်ရာ အဖွဲ့အစည်းများ၏ သဘောထားများကို တောင်းခံရယူ ရန် လိုအပ်ပါသည်။

၃။ ကော်မရှင်အနေဖြင့် လုပ်ငန်း အဆိုပြုလွှာများကို အမြန်ဆုံး စိစစ်ပေးရန် သမ္မတရုံးမှ ညွှန်ကြားထားပါသဖြင့် Megason Investment Co., Ltd. ၏ အထပ်(၂၆)ထပ်ပါ The Prestige Residential Complex Project (၄)လုံး တည်ဆောက်၍အခန်းများ ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်းနှင့်စပ်လျဉ်း၍ မိခင်ကုမ္ပဏီဖြစ်သော Sichuan Jinhui Tianfu Investment Co., Ltd ထံမှ အမေရိကန်ဒေါ်လာ ၃၀.၀၀ သန်း ချေးငွေရယူခြင်းအပေါ် လိုအပ်သလို စိစစ်ကာ သဘောထား မှတ်ချက်အား **ရက်သတ္တ ပတ်တစ်ပတ်အတွင်း** ပြန်ကြားပေးပါရန် အဆိုပြုချက်(တစ်) စောင် ပူးတွဲပေးပို့လျှက် ညှိနှိုင်းမေတ္တာ ရပ်ခံအပ်ပါသည်။

၄။ Megason Investment Co., Ltd.နှင့် ဆက်သွယ်ရန် လိပ်စာမှာ ဦးဆန်းသွင်၊ဖုန်းနံပါတ်၊ ၀၉-၄၃၁၄၇၆၀၃ ဖြစ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

Megason Investment Co., Ltd.
ရုံးလက်ခံ / မှတ်တမ်း

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဩဂုတ်လ ၄ ရက်

အကြောင်းအရာ။ **မြန်မာနိုင်ငံ အင်ဂျင်နီယာအသင်း၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြရန် ထပ်မံအကြောင်းကြားခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံ Top Home Made Foodstuff Trading Co., Ltd မှ (၅%)၊ ဦးစိုင်းလုံပေါင်း မှ (၁၇.၅ %)၊ ဦးစိုင်းဝမ်းမိုင်းမှ (၁၇.၅ %) နှင့် တရုတ်နိုင်ငံ Sichuan Jinhui Tianfu Investment Co., Ltd မှ(၆၀%)တို့ ဖက်စပ်ပြုလုပ်၍ Megason Investment Co.,Ltd. တည်ထောင်ပြီး ရန်ကုန်တိုင်း ဒေသကြီး၊ မင်္ဂလာတောင်ညွန့် မြို့နယ်၊ အထက်ပုဇွန်တောင်လမ်း၊ အကွက်အမှတ် (13A/2-1,A2)၊ အဆောက်အဦအမှတ်(5A)ရှိ မြေ ၁၁၂၄၆ စတုရန်းမီတာ(၂.၇၇၉ဧက)တွင် အထပ်(၂၆) ထပ်ပါ The Prestige Residential Complex Project (၄)လုံး တည်ဆောက်၍ အခန်းများ ငှားရမ်းခြင်း ဝန်ဆောင်မှု လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဆန်းသွင် မှ အဆိုပြုချက် တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းမှ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြရန်အချက်များအား ကုမ္ပဏီသို့ အကြောင်းကြားခဲ့ပါသည်။ **အလံ "၁"** **အလံ "၂"**

၂။ ကုမ္ပဏီမှ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြရန်အချက်များအား ယနေ့တိုင်ပြန်လည်တင်ပြလာခြင်း မရှိသေးပါသဖြင့် ဆောလျင်စွာ တင်ပြပေးပါရန် ထပ်မံ အကြောင်းကြားမည့် **စာချော** တွင် လက်မှတ်ရေးထိုးပေးပါရန် ပြုစု တင်ပြအပ်ပါသည်။

| | **ရေးသွင်းသူ** | **စိစစ်သူ** | **အတည်ပြုသူ** |
|---|---|---|---|
| လက်မှတ် | 4/8/15 | 4/8/15 | 4/8 |
| အမည် | (စိုးသီဟ) | (ဝင်းမို့မို့အေး) | (သန်းသန်းနု) |
| ရာထူး | ဒုတိယဦးစီးမှူး | ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး |

**ညွှန်ကြားရေးမှူး**

၃။ တာဝန်

ဒုတိယညွှန်ကြားရေးမှူးချုပ်

၄ " တာဝန်

တွဲဖက်အတွင်းရေးမှူး

၅ "

4/8/15

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

စာအမှတ်၊ရက-၄ /န-၀၂၂ / ၂၀၁၅ ( ၅၇၈ )
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် ဩဂုတ်လ ၄ ရက်

အကြောင်းအရာ။ **မြန်မာနိုင်ငံ အင်ဂျင်နီယာအသင်း၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြရန် ထပ်မံ အကြောင်းကြားခြင်းကိစ္စ**

ရည်ညွှန်းချက် ။ (၁) မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၏၂-၇-၂၀၁၅ ရက်စွဲပါစာ အမှတ် မအသ/MIC/၁၂၅၉/၂၀၁၅

(၂) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၁၅-၇-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက- ၄/န-၀၂၂ / ၂၀၁၅ (၅၁၃)

၁။ မြန်မာနိုင်ငံ Top Home Made Foodstuff Trading Co., Ltd မှ (၅%)၊ ဦးစိုင်းလုံပေါင်းမှ (၁၇.၅ %)၊ ဦးစိုင်းဝမ်းမိုင်းမှ (၁၇.၅ %) နှင့် တရုတ်နိုင်ငံ Sichuan Jinhui Tianfu Investment Co., Ltd မှ(၆၀%)တို့ ဖက်စပ်ပြုလုပ်၍ Megason Investment Co., Ltd. တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာတောင်ညွှန့်မြို့နယ်၊ အထက်ပုဇွန်တောင်လမ်း၊ အကွက်အမှတ် (13A/2-1,A2)၊ အဆောက်အဦအမှတ်(5A)ရှိ မြေ ၁၁၂၄၆ စတုရန်းမီတာ(၂.၇၇၉ဧက)တွင် အထပ် (၂၆) ထပ်ပါ The Prestige Residential Complex Project (၄)လုံး တည်ဆောက်၍ အခန်းများ ငှားရမ်းခြင်း ဝန်ဆောင်မှု လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဆန်းသွင်မှ အဆိုပြုချက် တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံ အင်ဂျင်နီယာအသင်းမှ ရည်ညွှန်း(၁)ပါစာဖြင့် သဘောထားပြန်ကြားချက်အရ ပြင်ဆင်တင်ပြရန် အချက်များအား ကုမ္ပဏီသို့ ရည်ညွှန်း(၂)ပါစာဖြင့် အကြောင်း ကြားခဲ့ပါသည်။

၂။ သို့ရာတွင် ကုမ္ပဏီမှ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၏ သဘောထားမှတ်ချက်နှင့်အညီ တင်ပြရမည့် အချက်များအား ယနေ့တိုင် တင်ပြလာခြင်း မရှိသေးပါသဖြင့် ကော်မရှင် အစည်းအဝေးသို့ တင်ပြနိုင်ရေးအတွက် **ဆောလျင်စွာ** တင်ပြပေးပါရန် ထပ်မံ အကြောင်းကြားပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

Megason Investment Co., Ltd.

မိတ္တူကို
ရုံးလက်ခံ / မျှောစာတွဲ

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဇူလိုင်လ ၃ ရက်

Mg-452 6/7
2 7/7
15 13/7

**အကြောင်းအရာ။ မြန်မာနိုင်ငံ အင်ဂျင်နီယာအသင်း၏ သဘောထား မှတ်ချက်နှင့် အညီ ပြင်ဆင် တင်ပြရန်ကိစ္စ**

၁။ မြန်မာနိုင်ငံ Top Home Made Foodstuff Trading Co., Ltd မှ (၅%)၊ ဦးစိုင်းလုံပေါင်း မှ (၁၇.၅ %)၊ ဦးစိုင်းဝမ်းမိုင်းမှ (၁၇.၅ %) နှင့် တရုတ်နိုင်ငံ Sichuan Jinhui Tianfu Investment Co., Ltd မှ(၆၀%)တို့ ဖက်စပ်ပြုလုပ်၍ Megason Investment Co., Ltd. တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ အထက်ပုဇွန် တောင်လမ်း၊ အကွက်အမှတ် (13A/2-1,A2)၊ အဆောက်အဦ အမှတ်(5A) ရှိ မြေ ၁၁၂၄၆ စတုရန်းမီတာ (၂.၇၇၉ဧက)တွင် အထပ်(၂၆)ထပ်ပါ The Prestige Residential Complex Project (၄)လုံး တည်ဆောက်၍ အခန်းများ ငှားရမ်းခြင်း ဝန်ဆောင်မှု လုပ်ငန်းအား နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဆန်းသွင်(အဘ-ဦးအုန်းလှိုင်)မှ အဆိုပြုချက် တင်ပြလာခြင်းကို (၁၁-၅-၂၀၁၅) ရက်စွဲပါစာဖြင့် မြန်မာနိုင်ငံ အင်ဂျင်နီယာအသင်းသို့ သဘောထား တောင်းခံ ခဲ့ပါသည်။ အလံ "၁"

၂။ မြန်မာနိုင်ငံ အင်ဂျင်နီယာအသင်းမှ အဆောက်အဦပိုင်းတွင် ပြည်ပမှ တင်သွင်းမည့် ဆောက်လုပ်ရေးပစ္စည်းများ၏ ထောက်ခံတင်ပြထားသည့် အရေအတွက်မှာအောက်ပါအတိုင်း ဖြစ်ပါသည်- အလံ "၂"

| စဉ် | ပစ္စည်းအမျိုးအမည် | Unit | MIC ဇာအုပ်ပါ အရေအတွက် | BQတွင်ပါဝင်သော အရေအတွက် | ထောက်ခံတင်ပြသော အရေအတွက် | |
|---|---|---|---|---|---|---|
| (က) | Cement | Ton | 23500 | 23500 | 22138 | |
| (ခ) | Rebar | Ton | 12350 | 12350 | 10054 | |
| (ဂ) | Modelling wood board (0.9*1.8) | PCS | 24300 | 24300 | 24300 | ✓ |
| (ဃ) | Wood bar (4.5*7.5) | $m^3$ | 461 | 461 | 461 | ✓ |
| (င) | Scaffold & Fastener (dia 40*2.8) | Ton | 356 | 356 | 356 | ✓ |
| (စ) | Binding wire | Ton | 40 | 40 | 40 | ✓ |
| (ဆ) | Window frame (Plastic plated Steel) | $m^2$ | 25000 | 25000 | 25000 | ✓ |
| (ဇ) | Handrail (Balcony) | m | 16000 | 16000 | 16000 | |
| (ဈ) | Waterproof rolls | $m^2$ | 46400 | 46400 | 37880 | |
| (ည) | Waterproof painting (Coating) | $m^2$ | 58400 | 58400 | 37880 | |
| (ဋ) | Building top structure (Steel) | Ton | 314 | 314 | 167 | |
| (ဌ) | In-house doors | Set | 1584 | 1584 | 1584 | ✓ |
| (ဍ) | Toilet Door | Unit | 2112 | 2112 | 2112 | ✓ |

ရှုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

| စဉ် | ပစ္စည်းအမျိုးအမည် | Unit | MIC စာအုပ်ပါ အရေအတွက် | BQတွင်ပါဝင်သော အရေအတွက် | ထောက်ခံတင်ပြသော အရေအတွက် |
|---|---|---|---|---|---|
| (ဎ) | Balcony Door | Unit | 528 | 528 | 528 |
| (ဏ) | Floor Ceramic Tiles | $m^2$ | 34320 | 34320 | 34320 |
| (တ) | Engineered Wood Floor | $m^2$ | 29040 | 29040 | 20328 |
| (ထ) | Ceramic Wall Tile | $m^2$ | 44880 | 44880 | 44352 |
| (ဒ) | Painting | Gal | 23640 | 23640 | 23640 |
| (ဓ) | Integrated Kitchen Set | Unit | 528 | 528 | 528 |
| (န) | Shower Cabinet Set | Unit | 528 | 528 | 528 |
| (ပ) | Elevators | Set | 12 | 12 | 12 |

၃။ သို့ဖြစ်ပါ၍ ပြည်ပမှ တင်သွင်းလိုသည့် ပစ္စည်းများအပေါ် မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းမှ ထောက်ခံတင်ပြထားသည့် အရေအတွက်ပမာဏအား ပြင်ဆင်ပေးရန် ကုမ္ပဏီသို့ အကြောင်းကြားမည့် **စာချော**တွင် လက်မှတ်ရေးထိုးပေးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

| | ရေးသွင်းသူ | စိစစ်သူ | အတည်ပြုသူ |
|---|---|---|---|
| လက်မှတ် | 3/7/15 | 3/7/15 | 3/7 |
| အမည် | (စိုးသီဟ) | (ဝင်းမို့မို့အေး) | (သန်းသန်းနု) |
| ရာထူး | ဒုတိယဦးစီးမှူး | ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး |

**ညွှန်ကြားရေးမှူး**

၄။ [illegible]

[illegible]

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

ဖက်(စ်)-၀၁-၆၅၈၁၁၇

☎ -၀၁-၆၅၈၁၂၉

စာအမှတ်၊ ရက-၄/န-၀၂၂/ ၂၀၁၅ ( ၅၁၃ )

ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဇူလိုင်လ ၁၅ ရက်

အကြောင်းအရာ။ **မြန်မာနိုင်ငံ အင်ဂျင်နီယာအသင်း၏သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြရန်ကိစ္စ**

ရည်ညွှန်းချက် ။ (၁) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၁၁-၅-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက- ၄/န-၀၂၂ / ၂၀၁၅ (၃၅၈)

(၂) မြန်မာနိုင်ငံ အင်ဂျင်နီယာ အသင်း၏ (၂-၇-၂၀၁၅) ရက်စွဲပါ စာအမှတ်၊မအသ/MIC/ ၁၂၅၉/၂၀၁၅

၁။ မြန်မာနိုင်ငံ Top Home Made Foodstuff Trading Co., Ltd မှ (၅%)၊ ဦးစိုင်းလုံပေါင်းမှ (၁၇.၅ %)၊ ဦးစိုင်းဝမ်းမိုင်းမှ (၁၇.၅ %) နှင့် တရုတ်နိုင်ငံ Sichuan Jinhui Tianfu Investment Co., Ltd မှ(၆၀%)တို့ ဖက်စပ်ပြုလုပ်၍ Megason Investment Co., Ltd. တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ အထက်ပုဇွန်တောင်လမ်း၊ အကွက်အမှတ် (13A/2-1,A2)၊ အဆောက်အဦ အမှတ်(5A) ရှိ မြေ ၁၁၂၄၆ စတုရန်းမီတာ (၂.၇၇၉ဧက)တွင် အထပ်(၂၆)ထပ်ပါ The Prestige Residential Complex Project (၄)လုံး တည်ဆောက်၍ အခန်းများ ငှားရမ်းခြင်း ဝန်ဆောင်မှု လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဆန်းသွင်(အဘ-ဦးအုန်းလှိုင်)မှ အဆိုပြုချက် တင်ပြလာခြင်းအား ရည်ညွှန်း(၁)ပါစာဖြင့် မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းသို့ သဘောထားတောင်းခံခဲ့ပါသည်။

၂။ မြန်မာနိုင်ငံ အင်ဂျင်နီယာအသင်းမှ ရည်ညွှန်း(၂)ပါစာဖြင့် အဆောက်အဦပိုင်းတွင် ပြည်ပမှ တင်သွင်းမည့် ဆောက်လုပ်ရေးပစ္စည်းများ၏ ထောက်ခံသည့် အရေအတွက်မှာ အောက်ပါအတိုင်း ဖြစ်ပါကြောင်း သဘောထားပြန်ကြားလာပါသည်-

| စဉ် | ပစ္စည်းအမျိုးအမည် | Unit | MIC စာအုပ်ပါ အရေအတွက် | BQတွင်ပါဝင်သော အရေအတွက် | ထောက်ခံတင်ပြသော အရေအတွက် |
|---|---|---|---|---|---|
| (က) | Cement | Ton | 23500 | 23500 | 22138 |
| (ခ) | Rebar | Ton | 12350 | 12350 | 10054 |
| (ဂ) | Modelling wood board (0.9*1.8) | Pcs | 24300 | 24300 | 24300 |
| (ဃ) | Wood bar (4.5*7.5) | $m^3$ | 461 | 461 | 461 |
| (င) | Scaffold & Fastener (dia 40*2.8) | Ton | 356 | 356 | 356 |
| (စ) | Binding wire | Ton | 40 | 40 | 40 |
| (ဆ) | Window frame (Plastic plated Steel) | $m^2$ | 25000 | 25000 | 25000 |

| စဥ် | ပစ္စည်းအမျိုးအမည် | Unit | MIC စာအုပ်ပါ အရေအတွက် | BQတွင်ပါဝင်သော အရေအတွက် | ထောက်ခံတင်ပြသော အရေအတွက် |
|---|---|---|---|---|---|
| (ဇ) | Handrail (Balcony) | m | 16000 | 16000 | 16000 |
| (ဈ) | **Waterproof rolls** | $m^2$ | **46400** | 46400 | **37880** |
| (ည) | **Waterproof painting (Coating)** | $m^2$ | **58400** | 58400 | **37880** |
| (ဋ) | **Building top structure (Steel)** | Ton | **314** | 314 | **167** |
| (ဌ) | In-house doors | Set | 1584 | 1584 | 1584 |
| (ဍ) | Toilet Door | Unit | 2112 | 2112 | 2112 |
| (ဎ) | Balcony Door | Unit | 528 | 528 | 528 |
| (ဏ) | Floor Ceramic Tiles | $m^2$ | 34320 | 34320 | 34320 |
| (တ) | **Engineered Wood Floor** | $m^2$ | **29040** | 29040 | **20328** |
| (ထ) | **Ceramic Wall Tile** | $m^2$ | **44880** | 44880 | **44352** |
| (ဒ) | Painting | Gal | 23640 | 23640 | 23640 |
| (ဓ) | Integrated Kitchen Set | Unit | 528 | 528 | 528 |
| (န) | Shower Cabinet Set | Unit | 528 | 528 | 528 |
| (ပ) | Elevators | Set | 12 | 12 | 12 |

၃။ သို့ဖြစ်ပါ၍ ပြည်ပမှတင်သွင်းလိုသည့် ပစ္စည်းများအပေါ် မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းမှ ထောက်ခံသည့် အရေအတွက်ပမာဏအတိုင်း ပြင်ဆင်၍ ကော်မရှင်သို့ ပြန်လည် တင်ပြပေးရန် အကြောင်းကြားပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

Megason Investment Co., Ltd.

မိတ္တူကို
မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း
ရုံးလက်ခံ / မျှောစာတွဲ

M3-499
22/5


မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း

# MYANMAR ENGINEERING SOCIETY

Hlaing Universities' Campus, Hlaing Township, Yangon, Myanmar
Tel : 95-1-519673 ~ 76, Fax : 95-1-519681
E-mail:mes@mptmail.net.mm, Website: www.mes.org.mm


သို့

ဉက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မအသ/MIC/၁၁၇၃ /၂၀၁၅ ။
ရက်စွဲ ၊ ၂၀၁၅ ခုနှစ်၊မေလ( ၂၁ )ရက်။

အကြောင်းအရာ ။ **။Megason Investment Co.,Ltd ၏ အထပ်(၂၆)ထပ်ပါ The Prestige Residential ComplexProject (၄)လုံးတည်ဆောက်မည့် လုပ်ငန်းနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်တောင်းခံထားသည့်ကိစ္စ။**

ရည်ညွှန်းချက်။ ။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏၁၁.၅.၂၀၁၅ရက်စွဲပါ စာအမှတ်၊ရက-၄/န-၀၂၂/၂၀၁၅(၃၅၈)။

၁။ အထက်ပါအကြောင်းအရာကိစ္စနှင့်ပတ်သက်၍ ရည်ညွှန်းချက်ပါစာအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ (၁၁.၅.၂၀၁၅)ရက်နေ့တွင်ပေးပို့ခဲ့ရာ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းမှ (၁၃.၅.၂၀၁၅)ရက်နေ့တွင် လက်ခံရရှိခဲ့ပါသည်။

၂။ ၎င်းစာတွင် Megason Investment Co.,Ltd မှ တည်ဆောက်မည့် အထပ်(၂၆)ထပ်ပါ The Prestige Residential Complex Project (၄)လုံး တည်ဆောက်မည့် လုပ်ငန်းစီမံကိန်းနှင့်ပတ်သက်သည့် Drawings မှာ Civil အတွက်သာ ပါရှိပါသည်။ ထို့ကြောင့် လိုအပ်သော M&E Drawings (A-3 size) နှင့် Bill of Quantity တို့ကိုပေးပါရန် ကုမ္ပဏီသို့ တယ်လီဖုန်းဖြင့် တောင်းခံထားပါသည်။ ကုမ္ပဏီမှ (၁၉.၅.၂၀၁၅)ရက်နေ့တွင် About Calculation Data ခေါင်းစဉ်ဖြင့် စာတစ်စောင်ပေးပို့လာပါသည်။ ၎င်းစာတွင် Calculation Data များကိုသာ ဖော်ပြထားပါသည်။ ထို့ကြောင့် Materials ဖြင့် ပြည့်စုံစွာ ဖော်ပြထားသော Bill of Quantity လိုအပ်ပါသည်။

၃။ သို့ဖြစ်ပါ၍ Megason Investment Co.,Ltd မှ M&E Drawings (A-3size) နှင့် Materials ဖြင့်ပြည့်စုံစွာဖော်ပြထားသော Bill of Quantity ကို လက်ခံရရှိပြီးပါက အမြန်ဆုံးစိစစ်၍ သဘောထားမှတ်ချက်အား ပြန်ကြားမည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဥက္ကဋ္ဌ (ကိုယ်စား)
(ဦးကြည်လွင်၊အတွင်းရေးမှူး)
MIC Projects Assessment Committee
မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း

မိတ္တူကို - Managing Director, Megason Investment Co.,Ltd
- ဥက္ကဋ္ဌ ၊ M.I.C Projects Assessment Committee, Myanmar Engineering Society
- ရုံးလက်ခံ၊ မျှောစာတွဲ



3/7/2015

M3-408 12/6

DG 5 15/6/15

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဇွန်လ ၁၂ ရက်

အကြောင်းအရာ။ **အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြရန် ထပ်မံအကြောင်းကြားခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံ Top Home Made Foodstuff Trading Co., Ltd မှ (၅%)၊ ဦးစိုင်းလုံပေါင်း မှ (၁၇.၅ %)၊ ဦးစိုင်းဝမ်းမိုင်းမှ (၁၇.၅ %) နှင့် တရုတ်နိုင်ငံ Sichuan Jinhui Tianfu Investment Co., Ltd မှ(၆၀%)တို့ ဖက်စပ်ပြုလုပ်၍ Megason Investment Co.,Ltd. တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ အထက်ပုဇွန်တောင်လမ်း၊ အကွက်အမှတ်(13A/2-1,A2)၊ အဆောက်အဦ အမှတ်(5A) ရှိ မြေ ၁၁၂၄၆ စတုရန်းမီတာ(၂.၇၇၉ဧက)တွင် အထပ်(၂၆) ထပ်ပါ The Prestige Residential Complex Project (၄)လုံး တည်ဆောက်၍ အခန်းများ ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဆန်းသွင် (အဘ-ဦးအုန်းလှိုင်)မှ အဆိုပြုချက် တင်ပြလာခြင်းကို ၂၀၁၅ ခုနှစ်မေလ ၁၁ ရက်နေ့တွင် ကျင်းပသည့် အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၁၆/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီး အစည်းအဝေး ဆုံးဖြတ်ချက်အား (၂၁-၅-၂၀၁၅)ရက်နေ့ ရက်စွဲပါစာဖြင့် လည်းကောင်း ၊ အထပ်မြင့် အဆောက်အအုံ တည်ဆောက်ရေး စီမံကိန်းများ ကြီးကြပ်စစ်ဆေးရေး ပညာရှင်အဖွဲ့၏ သဘောထား မှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြရန် (၂၁-၅-၂၀၁၅) ရက်စွဲပါစာဖြင့် လည်းကောင်း၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြရန် (၂၉-၅-၂၀၁၅)ရက်နေ့ ရက်စွဲပါစာများဖြင့်လည်းကောင်း၊ ကုမ္ပဏီသို့ အကြောင်းကြားခဲ့ပါသည်။

၂။ ကုမ္ပဏီမှ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ အစည်းအဝေး ဆုံးဖြတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြရမည့်အချက်၊အထပ်မြင့် အဆောက်အအုံ တည်ဆောက်ရေး စီမံကိန်းများ ကြီးကြပ်စစ်ဆေးရေးပညာရှင်အဖွဲ့၏သဘောထားမှတ်ချက်နှင့်အညီပြင်ဆင်တင်ပြရန်နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြရန်အချက်များအား ယနေ့တိုင်ပြန်လည်တင်ပြလာခြင်း မရှိသေးပါသဖြင့် ဆောလျင်စွာ တင်ပြပေးပါရန် ထပ်မံ အကြောင်းကြားမည့် **စာချော** တွင် လက်မှတ်ရေးထိုးပေးပါရန် ပြုစုတင်ပြအပ်ပါသည်။

| | **ရေးသွင်းသူ** | **စိစစ်သူ** | **အတည်ပြုသူ** |
|---|---|---|---|
| လက်မှတ် | 12/6/15 | 12/6/15 | 12/6 |
| အမည် | (စိုးသီဟ) | (ဝင်းမိုမိုအေး) | (သန်းသန်းနု) |
| ရာထူး | ဒုတိယဦးစီးမှူး | ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

ဖက်(စ်) ၀၁-၆၅၈၁၃၃၇
☎- ၀၁-၆၅၈၁၂၉

စာအမှတ်၊ ရက-၄ /န-၀၂၂ /၂၀၁၅ ( ၄၆၈ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဇွန် လ ၁၅ ရက်

အကြောင်းအရာ။ **အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်၊ သက်ဆိုင်ရာ ဝန်ကြီးဌာနများ၏ သဘောထား မှတ်ချက်များနှင့်အညီ ပြင်ဆင်တင်ပြရန် ထပ်မံ အကြောင်းကြားခြင်းကိစ္စ**

ရည်ညွှန်းချက် ။ (၁)အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၂၁-၅-၂၀၁၅) ရက်စွဲပါ စာအမှတ်၊ ရက-၄ / န-၀၂၂ / ၂၀၁၅ (၃၉၆)

(၂)မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏(၂၁-၅-၂၀၁၅) ရက်စွဲပါစာ အမှတ်၊ ရက-၄ /န-၀၂၂ /၂၀၁၅ (၄၀၁)

(၃)မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၂၉-၅-၂၀၁၅) ရက်စွဲပါစာ အမှတ်၊ ရက-၄ /န-၀၂၂ /၂၀၁၅ (၄၁၅ )

၁။ မြန်မာနိုင်ငံ Top Home Made Foodstuff Trading Co., Ltd မှ (၅%)၊ ဦးစိုင်းလုံပေါင်းမှ (၁၇.၅ %)၊ ဦးစိုင်းဝမ်းမိုင်းမှ (၁၇.၅ %) နှင့် တရုတ်နိုင်ငံ Sichuan Jinhui Tianfu Investment Co., Ltd မှ(၆၀%)တို့ ဖက်စပ်ပြုလုပ်၍ Megason Investment Co., Ltd. တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ အကွက်အမှတ်(13A/2-1,A2)၊ အဆောက်အဦ အမှတ်(5A) ရှိ မြေ ၁၁၂၄၆ စတုရန်းမီတာ (၂.၇၇၉ဧက)တွင် အထပ်(၂၆)ထပ်ပါ The Prestige Residential Complex Project (၄)လုံး တည်ဆောက်၍အခန်းများ ငှားရမ်းခြင်း ဝန်ဆောင်မှု လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဆန်းသွင် (အဘ-ဦးအုန်းလှိုင်)မှ အဆိုပြုချက် တင်ပြလာခြင်းကို ၂၀၁၅ ခုနှစ် မေလ ၁၁ ရက်နေ့တွင် ကျင်းပသည့် အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၁၆/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးတွင်တင်ပြဆွေးနွေးခဲ့ရာ "Bill of Quantity(BQ)တင်ပြရန်" ဆုံးဖြတ်ခဲ့ပါသည်။

၂။ အထက်စာပိုဒ်(၁)ပါ ဆုံးဖြတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြရန် ရည်ညွှန်း(၁)ပါစာဖြင့် လည်းကောင်း၊အထပ်မြင့် အဆောက်အအုံ တည်ဆောက်ရေး စီမံကိန်းများ ကြီးကြပ်စစ်ဆေးရေး ပညာရှင်အဖွဲ့၏ သဘောထားမှတ်ချက်နှင့် အညီ ပြင်ဆင်တင်ပြရန် ရည်ညွှန်း(၂)ပါစာဖြင့် လည်းကောင်း၊

ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထား မှတ်ချက် နှင့်အညီ ပြင်ဆင်တင်ပြရန် ရည်ညွှန်း(၃)ပါ စာဖြင့်လည်းကောင်း အကြောင်းကြားခဲ့သော်လည်း ယနေ့တိုင် ပြင်ဆင်တင်ပြလာခြင်း မရှိသေးပါသဖြင့် **ဆောလျင်စွာ** ပြင်ဆင်တင်ပြပေးပါရန် အကြောင်းကြားပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

Megason Investment Co., Ltd.

မိတ္တူကို

အထပ်မြင့် အဆောက်အအုံ တည်ဆောက်ရေး စီမံကိန်းများ ကြီးကြပ်စစ်ဆေးရေး ပညာရှင်အဖွဲ့ (CQHP)

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေး ရာဝန်ကြီးဌာန

ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန

ရုံးလက်ခံ/မျှောစာတွဲ

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၅ ခုနှစ် မေ လ၂၂ ရက်

အကြောင်းအရာ။ **မြန်မာနိုင်ငံ အင်ဂျင်နီယာအသင်းမှ တောင်းခံထားသည့် အချက်များအား တင်ပြရန်ကိစ္စ**

၁။ မြန်မာနိုင်ငံ Top Home Made Foodstuff Trading Co., Ltd မှ (၅%)၊ ဦးစိုင်းလုံပေါင်း မှ (၁၇.၅ %)၊ ဦးစိုင်းဝမ်းမိုင်းမှ (၁၇.၅ %) နှင့် တရုတ်နိုင်ငံ Sichuan Jinhui Tianfu Investment Co., Ltd မှ(၆၀%)တို့ ဖက်စပ်ပြုလုပ်၍ Megason Investment Co., Ltd. တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ အထက်ပုဇွန်တောင်လမ်း၊ အကွက်အမှတ် (13A/2-1,A2)၊ အဆောက်အဦ အမှတ်(5A) ရှိ မြေ ၁၁၂၄၆ စတုရန်းမီတာ (၂.၇၇၉ဧက)တွင် အထပ်(၂၆)ထပ်ပါ The Prestige Residential Complex Project (၄)လုံး တည်ဆောက်၍ အခန်းများ ငှားရမ်းခြင်း ဝန်ဆောင်မှု လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဆန်းသွင်(အဘ-ဦးအုန်းလှိုင်)မှအဆိုပြုချက်တင်ပြလာခြင်းကိုမြန်မာနိုင်ငံအင်ဂျင်နီယာအသင်းသို့ သဘောထားတောင်းခံခဲ့ပါသည်။

၂။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းမှ **“ ၂၀၁၅ ခုနှစ် မေလ ၁၉ ရက်နေ့တွင် Megason Investment Co., Ltd. မှ About Calculation Data ခေါင်းစဉ်ဖြင့် ပေးပို့လာသော်လည်း Materials ဖြင့် ပြည့်စုံစွာဖော်ပြထားသော Bill of Quantity တို့လိုအပ်ပါကြောင်း”** ပြန်ကြားလာပါသည်။

၃။ သို့ဖြစ်ပါ၍ Megason Investment Co., Ltd. မှ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၏တောင်းခံချက်များကို ကော်မရှင်သို့ တင်ပြရန် အကြောင်းကြားမည့် **စာချော** တွင် လက်မှတ်ရေးထိုးပေးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

| | **ရေးသွင်းသူ** | **စိစစ်သူ** |
|---|---|---|
| လက်မှတ် | 22/5/15 | 22/5 |
| အမည် | (စိုးသီဟ) | (သန်းသန်းနု) |
| ရာထူး | ဒုတိယဦးစီးမှူး | လက်ထောက်ညွှန်ကြားရေးမှူး |

**ညွှန်ကြားရေးမှူး**

၄။ [handwritten note] 22/5

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

ဖက်(စ်)-[illegible]
☎ -၀၁-၆၅၈၁၂၉

စာအမှတ်၊ ရက- ၄/န-၀၂၂/၂၀၁၅( ၄၂၀ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဇွန် လ ၁ ရက်

အကြောင်းအရာ ။ **မြန်မာနိုင်ငံ အင်ဂျင်နီယာအသင်းမှ တောင်းခံထားသည့် အချက်များအား တင်ပြရန်ကိစ္စ**

ရည်ညွှန်းချက် ။ (၁) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၁၁-၅-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက- ၄/န-၀၂၂ /၂၀၁၅ (၃၅၈)

(၂) မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၏ ၂၁-၅-၂၀၁၅ ရက်စွဲပါစာ အမှတ် မအသ/MIC/၁၁၇/၂၀၁၅

၁။ မြန်မာနိုင်ငံ Top Home Made Foodstuff Trading Co., Ltd မှ (၅%)၊ ဦးစိုင်းလုံပေါင်းမှ (၁၇.၅ %)၊ ဦးစိုင်းဝမ်းမိုင်းမှ (၁၇.၅ %) နှင့် တရုတ်နိုင်ငံ Sichuan Jinhui Tianfu Investment Co., Ltd မှ(၆၀%)တို့ ဖက်စပ်ပြုလုပ်၍ Megason Investment Co., Ltd. တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ အထက်ပုဇွန်တောင်လမ်း၊ အကွက်အမှတ် (13A/2-1,A2)၊ အဆောက်အဦ အမှတ်(5A) ရှိ မြေ ၁၁၂၄၆ စတုရန်းမီတာ (၂.၇၇၉ဧက)တွင် အထပ်(၂၆)ထပ်ပါ The Prestige Residential Complex Project (၄)လုံး တည်ဆောက်၍ အခန်းများ ငှားရမ်းခြင်း ဝန်ဆောင်မှု လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဆန်းသွင်(အဘ-ဦးအုန်းလှိုင်)မှ အဆိုပြုချက် တင်ပြလာခြင်းအား ရည်ညွှန်း(၁)ပါစာဖြင့် မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းသို့ သဘောထားတောင်းခံခဲ့ပါသည်။

၂။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းမှ **" ၂၀၁၅ ခုနှစ် မေလ ၁၉ ရက်နေ့တွင် Megason Investment Co., Ltd. မှ About Calculation Data ခေါင်းစဥ်ဖြင့် ပေးပို့လာသော်လည်း Materials ဖြင့် ပြည့်စုံစွာဖော်ပြထားသော Bill of Quantity တို့လိုအပ်ပါကြောင်း"**ရည်ညွှန်း(၂)ပါစာဖြင့် ပြန်ကြားလာပါသည်။

၃။ သို့ဖြစ်ပါ၍ အဆိုပြုချက် အပေါ်စိစစ်မှုအား အချိန်မီ ဆောင်ရွက်ပြီးစီးနိုင်ရန် လိုအပ်သည့် စာပိုဒ်(၂)ပါ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းမှ တောင်းခံထားသည့် M&E Drawings (A-3 size) နှင့် Materials ဖြင့် ပြည့်စုံစွာ ဖော်ပြထားသော Bill of Quantity တို့ကို မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းသို့ ဆောလျင်စွာ ပေးပို့တင်ပြပါရန် အကြောင်းကြားပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊တွဲဖက်အတွင်းရေးမှူး)

Megason Investment Co., Ltd.

MEGASON(MES)Rp

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၅ ခုနှစ် မေလ ၂၆ ရက်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ထပ်မံ တောင်းခံခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံ Top Home Made Foodstuff Trading Co., Ltd မှ (၅%)၊ ဦးစိုင်းလုံပေါင်း မှ (၁၇.၅ %)၊ ဦးစိုင်းဝမ်းမိုင်းမှ (၁၇.၅ %) နှင့် တရုတ်နိုင်ငံ Sichuan Jinhui Tianfu Investment Co., Ltd မှ(၆၀%)တို့ ဖက်စပ်ပြုလုပ်၍ Megason Investment Co., Ltd. တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ အကွက်အမှတ် (13A/2-1,A2)၊ အဆောက်အဦ အမှတ်(5A) ရှိ မြေ ၁၁၂၄၆ စတုရန်းမီတာ (၂.၇၇၉ဧက)တွင် အထပ်(၂၆)ထပ်ပါ The Prestige Residential Complex Project (၄)လုံး တည်ဆောက်၍အခန်းများ ငှားရမ်းခြင်း ဝန်ဆောင်မှု လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဆန်းသွင် (အဘ-ဦးအုန်းလှိုင်)မှ အဆိုပြုချက် တင်ပြလာခြင်းအား ရန်ကုန်မြို့တော် စည်ပင်သာယာရေး ကော်မတီသို့ သဘောထား တောင်းခံခဲ့ပါသည်။

၂။ သို့ရာတွင် ရန်ကုန်မြို့တော် စည်ပင်သာယာရေး ကော်မတီမှ ယနေ့တိုင်သဘောထား ပြန်ကြားလာခြင်းမရှိ သေးပါသဖြင့် ထပ်မံ၍ နှိုးဆော်စာထုတ်ပြန်မည့် **စာချော** တွင် လက်မှတ်ရေးထိုးပေးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

| | **ရေးသွင်းသူ** | **စစ်ဆေးသူ** |
|---|---|---|
| လက်မှတ် | (signature) 26/5/15 | (signature) 26/5/15 |
| အမည် | (စိုးသီဟ) | (သန်းသန်းနု) |
| ရာထူး | ဒုတိယဦးစီးမှူး | လက်ထောက်ညွှန်ကြားရေးမှူး |

**ညွှန်ကြားရေးမှူး**

၃။ (handwritten note) (signature) 25.5.

(signature)

၄။ (handwritten note)

ULH & Team

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

ဖက်(စ်) ၀၁-၆၅၈၁၁၇
☎ ၀၁-၆၅၈၁၂၉

စာအမှတ်၊ ရက- ၄/န-၀၂၂/၂၀၁၅( ၄၁၈-၈ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် မေလ ၂၉ ရက်

သို့

**ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ**

အကြောင်းအရာ။ **သဘောထားမှတ်ချက် ထပ်မံ တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက် ။ (၁) Megason Investment Co., Ltd.၏ (၄-၅-၂၀၁၅) ရက်စွဲပါ တင်ပြစာ

(၂) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံး၏ (၁၁-၅-၂၀၁၅) ရက်စွဲပါ စာအမှတ်၊ရက-၄/န-၀၂၂/၂၀၁၅(၃၅၇)

၁။ မြန်မာနိုင်ငံ Top Home Made Foodstuff Trading Co., Ltd မှ (၅%)၊ ဦးစိုင်းလုံပေါင်းမှ (၁၇.၅ %)၊ ဦးစိုင်းဝမ်းမိုင်းမှ (၁၇.၅ %) နှင့် တရုတ်နိုင်ငံ Sichuan Jinhui Tianfu Investment Co., Ltd မှ(၆၀%)တို့ ဖက်စပ်ပြုလုပ်၍ Megason Investment Co., Ltd. တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ အထက်ပုဇွန်တောင်လမ်း၊ အကွက်အမှတ် (13A/2-1,A2)၊ အဆောက်အဦ အမှတ်(5A) ရှိ မြေ ၁၁၂၄၆ စတုရန်းမီတာ (၂.၇၇၉ဧက)တွင် အထပ်(၂၆)ထပ်ပါ The Prestige Residential Complex Project (၄)လုံး တည်ဆောက်၍ အခန်းများငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်းအားနိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဆန်းသွင် (အဘ-ဦးအုန်းလှိုင်)မှ ရည်ညွှန်း(၁)ပါစာဖြင့် အဆိုပြုချက် တင်ပြလာခြင်းကို ရန်ကုန်မြို့တော် စည်ပင်သာယာရေး ကော်မတီသို့ ရည်ညွှန်း(၂)ပါစာဖြင့် သဘောထားမှတ်ချက် တောင်းခံခဲ့ပါသည်။

၂။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ဥပဒေအခန်း(၉)အပိုဒ် ၁၈(ခ)အရ အဆိုပြုလွှာကို လက်ခံရရှိသည့် အချိန်မှစ၍ ရက်ပေါင်း(၉၀)အတွင်း ခွင့်ပြုမိန့်ကို ထုတ်ပေးရမည် ဖြစ်ပါသဖြင့် ကော်မရှင်အစည်းအဝေးသို့ တင်ပြနိုင်ရန်အတွက် ရန်ကုန်မြို့တော် စည်ပင်သာယာရေး ကော်မတီ၏ သဘောထားမှတ်ချက်အား **ဆောလျင်စွာ** ပြန်ကြားပေးပါရန် ထပ်မံ ညှိနှိုင်း မေတ္တာရပ်ခံအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို

Megason Investment Co., Ltd.

ရုံးလက်ခံ/ မျှောစာတွဲ

MEGASON(YCDC) Re.INV-3

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၅ ခုနှစ် မေလ ၁၈ ရက်

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Megason Investment Co., Ltd. မှ အထပ်(၂၆)ထပ်ပါ The Prestige Residential Complex Project တည်ဆောက်၍အခန်းများငှားရမ်းခြင်းဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

၁။ အထက်အကြောင်းရာပါကိစ္စနှင့် စပ်လျဉ်း၍ ၂၀၁၅ ခုနှစ် မေလ ၁၁ ရက်နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် (၁၆/၂၀၁၅) ကြိမ်မြောက် အဆိုပြုချက် စိစစ်ရေးအဖွဲ့ အစည်းအဝေး ဆုံးဖြတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြရန် ကုမ္ပဏီသို့ အကြောင်းကြားမည့် **(စာချော)**တွင် လက်မှတ်ရေး ထိုးပေးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

| | ရေးသွင်းသူ | စိစစ်သူ | အတည်ပြုသူ |
|---|---|---|---|
| လက်မှတ် | (signature) 18/5/15 | (signature) 18/5/15 | (signature) 18/5 |
| အမည် | (စိုးသီဟ) | (ဝင်းမို့မို့အေး) | (သန်းသန်းနု) |
| ရာထူး | ဒုတိယဦးစီးမှူး | ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး |

**ညွှန်ကြားရေးမှူး**

၂။ [illegible]

(signature) ၁၈.၅.၁၅

[illegible]

၃။ [illegible]

၄။ [illegible]

MEGASON Ns( INV-3)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့
**အဆိုပြုချက် စိစစ်ရေးအဖွဲ့**

ဖက်(စ်) ၀၁-၆၅၈၁၃၇ — စာအမှတ်၊ ရက-၄ /န-၀၂၂ / ၂၀၁၅ ( ၃၉၆ )
☎- ၀၁-၆၅၈၁၂၉ — ရက်စွဲ၊ ၂၀၁၅ ခုနှစ် မေလ ၂၇ ရက်

အကြောင်းအရာ။ **အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၁၆/၂၀၁၅)အစည်းအဝေး ဆုံးဖြတ်ချက်ပေးပို့ခြင်းကိစ္စ**

ရည် ညွှန်း ချက်။ Megason Investment Co., Ltd. ၏ ၄-၅-၂၀၁၅ ရက်စွဲပါ တင်ပြစာ

၁။ မြန်မာနိုင်ငံ Top Home Made Foodstuff Trading Co., Ltd မှ (၅%)၊ ဦးစိုင်းလုံပေါင်းမှ (၁၇.၅ %)၊ ဦးစိုင်းဝမ်းမိုင်းမှ (၁၇.၅ %) နှင့် တရုတ်နိုင်ငံ Sichuan Jinhui Tianfu Investment Co., Ltd မှ(၆၀%)တို့ ဖက်စပ်ပြုလုပ်၍ Megason Investment Co., Ltd. တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ အကွက်အမှတ်(13A/2-1,A2)၊ အဆောက်အဦအမှတ်(5A) ရှိ မြေ ၁၁၂၄၆ စတုရန်းမီတာ (၂.၇၇၉ဧက)တွင် အထပ်(၂၆)ထပ်ပါ The Prestige Residential Complex Project (၄) လုံး တည်ဆောက်၍ အခန်းများငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဆန်းသွင် (အဘ-ဦးအုန်းလှိုင်)မှ ရည်ညွှန်းပါစာဖြင့် အဆိုပြုချက် တင်ပြလာခြင်းအပေါ် ၂၀၁၅ ခုနှစ်၊မေလ ၁၁ ရက်နေ့တွင် ကျင်းပသည့် အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၁၆/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ Bill of Quantity (BQ) တင်ပြပါရန် ဆုံးဖြတ်ခဲ့ပါသည်။

၂။ သို့ဖြစ်ပါ၍ အစည်းအဝေးဆုံးဖြတ်ချက်နှင့်အညီ Bill of Quantity (BQ) တင်ပြပေးရန်နှင့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းအသစ်အဖြစ် ဆောင်ရွက်ရန် လက်ခံနိုင်သည့် လုပ်ငန်း ဖြစ်ကြောင်း အကြောင်းကြားပါသည်။

(အောင်နိုင်ဦး)
အဖွဲ့ခေါင်းဆောင်

Megason Investment Co., Ltd.

မိတ္တူကို

ရုံးလက်. / မျှောစာတွဲ

MEGASON FAT R

ကန့်သတ်

# ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

## အဆိုပြုချက် စိစစ်ရေးအဖွဲ့

၂၀၁၅ ခုနှစ်၊ မေလ ၁၁ ရက်နေ့ နံနက် ၉း၀၀ နာရီတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံး အမှတ်(၁)သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့၊ အစည်းအဝေးခန်းမ၌ ကျင်းပသည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၁၆/၂၀၁၅) ကြိမ်မြောက် အစည်းအဝေး မှတ်တမ်း

**အစည်းအဝေးတက်ရောက်သူများ/ ကိုယ်စားတက်ရောက်သူများ**

ဦးအောင်နိုင်ဦး
ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

ဦးခင်မောင်သွင်
လက်ထောက်အင်ဂျင်နီယာချုပ်
ရန်ကုန်မြို့တော်လျှပ်စစ်ဓါတ်အားပေးရေးလုပ်ငန်း
လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

ဦးမြတ်ထွန်းကျော်
ညွှန်ကြားရေးမှူး
ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

ဦးရဲမြင့်
ညွှန်ကြားရေးမှူး
အကောက်ခွန်ဦးစီးဌာန
ဘဏ္ဍာရေးဝန်ကြီးဌာန

ဦးမျိုးလွင်
ညွှန်ကြားရေးမှူး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

ဦးခိုင်ထွန်း
ညွှန်ကြားရေးမှူး
စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန
စက်မှုဝန်ကြီးဌာန

ဦးအောင်သူထူး
ဒုတိယညွှန်ကြားရေးမှူး
ပြည်တွင်းအခွန်များဦးစီးဌာန
ဘဏ္ဍာရေးဝန်ကြီးဌာန

Electric High Temperature Thermometer (၆)ခုမှာ စက်ရုံ၏အပူချိန်မည်မျှရှိသည်ကို တိုင်းတာရာ၌ အသုံးပြုရန်အတွက်ဖြစ်ကြောင်း၊ မူလကုမ္ပဏီမှ စက်ပစ္စည်း(၆၄၇)လုံး လွှဲပြောင်းယူထားပြီး ရင်းနှီးမြှုပ်နှံမှုထဲသို့ ထည့်သွင်းဖော်ပြမထားကြောင်း၊ လိုအပ်ချက်များကိုပြည့်စုံစွာ ပြန်လည်တင်ပြပေးမည်ဖြစ်ကြောင်း ရှင်းလင်းတင်ပြပါသည်။

အစည်းအဝေးမှ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Magic Link Co., Ltd. မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ လိုအပ်ချက်များ ပြည့်စုံစွာဆောင်ရွက်ပြီးမှသာ အဆိုပြုချက်အား ပြန်လည်တင်ပြရန် ဆုံးဖြတ်ပါသည်။

၆။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Megason Investment Co., Ltd. မှ အထပ်(၂၆)ထပ်ပါ The Prestige Residential Complex Project တည်ဆောက်၍ အခန်းများ ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူး ဒေါ်ဆင့်ဆင့်သန်းက အမှာစာကို ရှင်းလင်းတင်ပြပါသည်။

ကုမ္ပဏီ၏ မန်နေဂျင်းဒါရိုက်တာ ဦးဆန်းသွင်က ရှင်းလင်းတင်ပြရာတွင် ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Top Home Made Foodstuff Trading Co., Ltd. (မြန်မာ)မှ ၅% ၊ ဦးစိုင်းလုံပေါင်း (မြန်မာ)မှ ၁၇.၅% ၊ ဦးစိုင်းဝမ်းမိုင်း (မြန်မာ)မှ ၁၇.၅% နှင့် Sichuan linui Tianfu Investment Co., Ltd. (တရုတ်)မှ ၆၀% ထည့်ဝင်၍ Megason Investment Co., Ltd. တည်ထောင်ကာ အထပ်(၂၆) ထပ်ပါ The Prestige Residential Complex Project (၄)လုံး တည်ဆောက်၍ အခန်းများ ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ကြောင်း၊ လုပ်ငန်းဆောင်ရွက်မည့် နေရာမှာ မင်္ဂလာတောင်ညွန့်မြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်(၅-က)ရှိ မြေဧရိယာ (၂.၇၉၉) ဧကအား တစ်နှစ် တစ်စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ ၃၁.၁၂ ဒေါ်လာနှုန်းနှင့် ငှားရမ်းဆောင်ရွက်မည်ဖြစ်ကြောင်း၊ အဆောက်အဦ ဆောက်လုပ်ခွင့်နှင့် ပတ်သက်၍ ရန်ကုန်မြို့တော် စည်ပင်သာယာရေး ကော်မတီသို့တင်ပြထားပြီး ရရှိပါက အထပ်မြင့်အဆောက်အအုံတည်ဆောက်ရေးစီမံကိန်းများ ကြီးကြပ်စစ်ဆေးရေးပညာရှင်အဖွဲ့ (CQHP)သို့ ဆက်လက်တင်ပြ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ ၈၀.၀၀သန်း ဖြစ်ကြောင်း ရှင်းလင်းတင်ပြပါသည်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် တွဲဖက်အတွင်းရေးမှူး ဒေါ်မြသူဇာက ကုမ္ပဏီမှအဆိုပြုချက်၌ Bill of Quantity (BQ) ထည့်သွင်းတင်ပြထားခြင်းရှိ-မရှိ သိလိုပြီး မြေလျော်ဒဏ် ကာကွယ်နိုင်ရန်အတွက် ထည့်သွင်းစီစဉ်ထားခြင်းရှိ-မရှိ သိလိုကြောင်း၊ ကုမ္ပဏီ၏စီမံခန့်ခွဲမှုအပိုင်းအား မည်သည့်အဖွဲ့အစည်းမှ တာဝန်ယူဆောင်ရွက်မည်ကိုသိလိုကြောင်း၊ ပြည်ပမှတင်သွင်းမည့် ပစ္စည်းစာရင်းတွင် Concrete Batching Plant အတွက် ထည့်သွင်းဖော်ပြထားသည်ကိုတွေ့ရသဖြင့် ပြည်တွင်းတွင် Batching Plant တည်ဆောက်ပေးနေသော လုပ်ငန်းများရှိသဖြင့် အဆိုပြုကုမ္ပဏီသို့အပ်နှံ၍ အသုံး

ပြု၍ရ-မရသိလိုကြောင်း၊ အဆိုပြုချက်ပါ၊ နောက်ဆက်တွဲ-၃တွင် လူစီးမော်တော်ယာဉ်များ တင်သွင်းမည်ဟု ဖော်ပြထားသဖြင့် အဆိုပါယာဉ်များ တင်သွင်းလိုပါက အခွန်ပေးဆောင်ရမည်ဖြစ်ပြီး လုပ်ငန်းသုံးယာဉ်များ တင်သွင်းပါက အခွန်ကင်းလွတ်ခွင့် ရမည်ဖြစ်ကြောင်း၊ လုပ်ငန်းဆောင်ရွက်ရာမှ ထွက်ရှိလာသည့် အမှိုက်များအား မည်သည့်စနစ်ဖြင့် စွန့်ပစ်မည့်အစီအစဉ်ကို သိလိုကြောင်း၊ ကားပါကင်၊ Drainage System ထည့်သွင်းဆောက်ရွက်ထားခြင်းရှိ-မရှိသိလိုပြီး ပြည်ပမှတင်သွင်းမည့် ပစ္စည်းစာရင်း ဖော်ပြထားသောဇယားတွင် စာလုံးပေါင်းများ မှားယွင်းနေသည်ကို ပြင်ဆင်ပေးရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန ဦးစီးအရာရှိ ဦးမြင့်ခိုင်က လုပ်ငန်းဆောင်ရွက်မည့်မြေပေါ်တွင် ဆောက်လုပ်မည့် အဆောက်အဦများ၏ Zoning ၊ High Level တို့နှင့်ပတ်သက်၍ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီမှ ခွင့်ပြုချက်အထောက်အထား တင်ပြရန်လိုကြောင်း၊ အထပ်မြင့်ဆောက်လုပ်ရန်နှင့်ပတ်သက်၍ အထပ်မြင့်အဆောက်အအုံ တည်ဆောက်ရေးစီမံကိန်းများ ကြီးကြပ်စစ်ဆေးရေးပညာရှင်အဖွဲ့(CQHP) နှင့် မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း တို့ထံသို့ သဘောထားမှတ်ချက်တောင်းခံရမည်ဖြစ်ကြောင်း၊ Traffic ရှိ၍ အဆောက်အဦ ဆောက်လုပ်ရာ၌ ကားဝင်ပေါက်/ ထွက်ပေါက် ထားရှိမည့်နေရာကိုပါ ထည့်သွင်းစဉ်းစားရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ရန်ကုန်မြို့တော်လျှပ်စစ်ဓါတ်အားပေးရေးလုပ်ငန်း လက်ထောက်အင်ဂျင်နီယာချုပ် ဦးခင်မောင်သွင်က လုပ်ငန်းဆောင်ရွက်မည့် အဆောက်အဦမှာ (၂၆) ထပ်ပါ Complex (၄) လုံး ဖြစ်ပြီး အဆိုပြုချက်ပါ ပုံစံ-၁၊ ၉(ည)၌ နှစ်စဉ်လျှပ်စစ်ဓါတ်အားသုံးစွဲမည့် လိုအပ်ချက်ပမာဏအား 100 KVA ဟု တင်ပြထားသဖြင့် 1000 KVA ဖြစ်သင့်သည်ဟုထင်ကြောင်း၊ ကုမ္ပဏီအနေဖြင့် လိုအပ်သည့် လျှပ်စစ်ဓါတ်အား အသုံးပြုနိုင်ရန် မိမိတို့ဌာနသို့ ကြိုတင်လျှောက်ထားရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

အကောက်ခွန်ဦးစီးဌာန ညွှန်ကြားရေးမှူး ဦးရဲမြင့်က အဆိုပြုချက်ပါ၊ ပြည်ပမှတင်သွင်းမည့် ပစ္စည်းတွင် အခန်းတွင်း၊ အခန်းပြင် အသုံးပြုမည့် ပစ္စည်းများပါဝင်သည်ကို တွေ့ရသဖြင့် အချို့ပစ္စည်းများမှာ အခွန်ပေးဆောင်၍ တင်သွင်းရမည့်ပစ္စည်းများ ဖြစ်သည်ကိုတွေ့ရကြောင်း၊ ကုမ္ပဏီအနေဖြင့် Complex များဆောက်လုပ်ပြီးပါက နှစ်ရှည်ငှားရမ်း ဆောင်ရွက်ရန်ရှိ-မရှိ သိလိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန ညွှန်ကြားရေးမှူး ဦးမြတ်ထွန်းကျော်က လုပ်ငန်းဆောင်ရွက်ရန်အတွက် တည်ဆောက်ရေးလုပ်ငန်းသုံးပစ္စည်းများ တင်သွင်းမည်ဖြစ်၍ Country of Origin ကို သိလိုကြောင်း၊ ဆောက်လုပ်မည့် အဆောက်အဦများအတွက် ဟောင်ကောင်မှ ဒီဇိုင်းရေးဆွဲပေးသည်ကို ဆောက်လုပ်ခြင်းဟုတ်-မဟုတ် သိလိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန ညွှန်ကြားရေးမှူး ဦးမျိုးလွင်က ကုမ္ပဏီသည် အထပ် (၂၆) ထပ်ပါ အဆင့်မြင့်လူနေအိမ်ခန်း (၄၈၄) ခန်းနှင့် အထပ်မြင့်အဆောက်အဦ (၄) လုံးကို ဆောက်လုပ်၍ ငှားရမ်းခြင်း၊ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်မည်ဖြစ်၍ အခန်း (၁၁) နှင့်အထက် ဖြစ်သောကြောင့်

ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) ရေးဆွဲတင်ပြရန် လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာန ညွှန်ကြားရေးမှူး ဦးလင်းထွဋ်က ကုမ္ပဏီမှ Bill of Quantity (BQ) တင်ပြပေးပါက မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းသို့ သဘောထားမှတ်ချက် တောင်းခံရမည်ဖြစ်၍ ရရှိပါက တင်ပြပေးရန်လိုကြောင်း၊ ပြည်ပမှတင်သွင်းမည့် ပစ္စည်းစာရင်းတွင် စာလုံးပေါင်းများ မှားယွင်းနေသည်ကို ပြန်လည်ပြင်ဆင်ပေးရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ကုမ္ပဏီ၏ မန်နေဂျင်းဒါရိုက်တာ ဦးဆန်းသွင်က ဆောက်လုပ်မည့် အဆောက်အဦများ၏ ဒီဇိုင်းကို တရုတ်ပြည်သူ့သမ္မတနိုင်ငံရှိ ကုမ္ပဏီသို့ အပ်နှံထားပြီး Bill of Quantity (BQ) ရရှိရန်အတွက် ရန်ကုန်မြို့တော် စည်ပင်သာယာရေး ကော်မတီရှိ အထပ်မြင့် ဆောက်လုပ်ရန်အတွက် ကြီးကြပ်မှု ကော်မတီ (HIC)၏ ခွင့်ပြုချက် ရရှိပါမှ Structure တွက်၍ ရမည်ဖြစ်ကြောင်း၊ တရုတ်ပြည်သူ့သမ္မတနိုင်ငံဘက်မှ မြေငလျင်ဒဏ်ခံနိုင်ရန်အပါအဝင် အားလုံးတွက်ချက်ပြီးသည်ကို အခြေခံပြီး မြန်မာနိုင်ငံမှ ပညာရှင်များနှင့် ညှိနှိုင်း၍ BQ တင်ပြပေးမည်ဖြစ်ကြောင်း၊ အဆောက်အဦ ဆောက်လုပ်ပြီးပါက ရောင်းချသည့် ဈေးကွက်ထက် ငှားရမ်းမည့် ဈေးကွက်မှာ ရေရှည်ပို၍ ကိုက်မည်ဖြစ်သောကြောင့် ငှားရမ်းခြင်းကို လုပ်ကိုင်မည်ဖြစ်ကြောင်း၊ ဟိုတယ်လုပ်ငန်းကဲ့သို့ ဝန်ဆောင်မှုပေးသည့်လုပ်ငန်းဖြစ်၍ ကြီးကြပ်မှုအပိုင်းကို ပြည်ပမှပညာရှင်များအား ခန့်ထားဆောင်ရွက်မည်ဖြစ်ကြောင်း၊ အဆောက်အဦ ဆောက်လုပ်ခြင်းကိုလည်း ဟောင်ကောင် Standard နှင့်အညီ ဆောက်လုပ်မည်ဖြစ်ကြောင်း၊ အဆောက်အဦငှားရမ်းမည့် မြေငှားရမ်းခကို မြေဧရိယာပေါ်တွင် တွက်ချက်ထားပြီး အခန်းခကို ဝင်ငွေပေါ်တွင်တွက်ချက်၍ တင်ပြထားကြောင်း၊ အဆောက်အဦများ ဆောက်လုပ်ရာ၌ Density မများအောင် စီစဉ်ဆောင်ရွက်ထားပြီး လေဝင်လေထွက်နှင့် အလင်းရောင်ကောင်းစွာရရှိရန် ထည့်သွင်းတွက်ချက်ထားကြောင်း၊ Traffic ရှိ၍ ဟိုတယ်ဝင်ပေါက်/ထွက်ပေါက် ထားရှိမည့်နေရာအတွက်ကိုပါ ထည့်သွင်းစဉ်းစားထားပြီး တံတားဆောက်လုပ်ပြီးစီးပါက ယာဉ်သွားလာရာ၌ အနည်းငယ်ချောင်သွားမည်ဟုထင်ကြောင်း၊ အဆိုပြုချက်ပါ ပုံစံ-၁၊ ၉(ည) နှစ်စဉ်လျှပ်စစ်ဓါတ်အားသုံးစွဲမှု လိုအပ်ချက်တွင် ဖော်ပြထားသည်မှာ 100 KVA ဖြစ်နေသဖြင့် 1000 KVA အမှန်နှင့် ပြန်လည် ပြင်ဆင်ပေးမည်ဖြစ်ပြီး ဓါတ်အားလိုအပ်ချက်အတွက် လျှပ်စစ်ဌာနသို့ ကြိုတင်လျှောက်ထားမည်ဖြစ်ကြောင်း၊ Complex များကို ဟိုတယ်တစ်ခုကဲ့သို့ ပြင်ဆင်ထားသော်လည်း ငှားရမ်းခဈေးနှုန်း မများပါကြောင်း၊ နှစ်ရှည်ငှားရမ်းလိုပါက ငှားရမ်းပေးမည်ဖြစ်ပြီး နှစ်ရှည်ငှားရမ်းလျှင် ဈေးနှုန်းလျှော့ပေးမည်ဖြစ်ကြောင်း၊ ဆောက်လုပ်မည့် အဆောက်အဦမှာ မြစ်ချောင်းဘေးတွင်ရှိသဖြင့် Basement များစွာ မတူးဘဲ မြေအောက်တွင် တစ်ထပ်သာထားရှိပြီး ကားပါကင်မှာ ပထမထပ်မှတတိယထပ်အထိ ရှိကြောင်း၊ Complex တွင် နေထိုင်သူများအတွက် စားသောက်ခန်း ဖွင့်လှစ်ထားမည်ဖြစ်ကြောင်း၊ ပြည်ပမှတင်သွင်းမည့်ပစ္စည်းစာရင်းတွင် Concrete Batching Plant အတွက် ထည့်သွင်းတင်ပြထားပြီး Structure Shell Wall အသုံးပြုထားသဖြင့် Concrete များများသုံးရမည်ဖြစ်သကဲ့သို့ အခန်းကန့်ရာ၌လည်း အသုံးပြုမည်ဖြစ်ကြောင်း၊ တရုတ်ပြည်သူ့သမ္မတနိုင်ငံနှင့် ဟောင်ကောင်တို့မှ အင်ဂျင်နီယာများကို အသုံးပြုမည့်

ဖြစ်ပြီး ကြီးကြပ်သူအနေဖြင့် ဟောင်ကောင်ပညာရှင်များကို သုံးမည်ဖြစ်ကာ စက်ပစ္စည်းများကို တရုတ်ပြည်သူ့သမ္မတနိုင်ငံမှ တင်သွင်းမည်ဖြစ်ကြောင်း၊ ဆောက်လုပ်မည့်သူအတွက် ကုန်ကျစရိတ်များသော်လည်း အရည်အသွေးကောင်းမွန်သည်ကို ထိန်းသိမ်းလိုသဖြင့် ယခုကဲ့သို့ ဆောင်ရွက်ခြင်းဖြစ်ကြောင်း၊ မိမိတို့ကုမ္ပဏီသည် လက်ရှိတွင် Mother Trading Co., Ltd. နှင့်တွဲ၍ အပေါ်စားအုတ်များ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်နေပြီး ပြည်တွင်းမှအုတ်များကိုသာရယူ၍ ဆောက်လုပ်သွားမည်ဖြစ်ကြောင်း၊ Batching Plant တစ်လုံးမှာ အဆောက်အဦ(၄)လုံးခန့် ဆောက်လုပ်ပြီးပါက ဆက်လက်အသုံးပြုရန် မကောင်းတော့သဖြင့် ဆောက်လုပ်ရေးလုပ်ငန်းသုံး ကိုယ်ပိုင် Concrete Batching Plant ဆောက်လုပ်ခြင်းဖြစ်ပြီး မြန်မာနိုင်ငံရှိ အဆိုပါလုပ်ငန်းဆောင်ရွက်သည့် ကုမ္ပဏီသို့အပ်နှံ ဆောက်လုပ်ပါက ကုန်ကျစရိတ်များကြောင်း၊ ပြည်ပမှလိုအပ်သည့် ဆောက်လုပ်ရေးလုပ်ငန်းသုံးယာဉ်များနှင့် ဝန်ဆောင်မှုပေးရန်အတွက် City Bus များ တင်သွင်းလို၍ တင်ပြထားခြင်းဖြစ်ကြောင်း၊ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီမှ အထပ်အမြင့်(၈)ထပ်နှင့်အထက်ဖြစ်ပါက ရေမပေးသဖြင့် ကိုယ်ပိုင်အဝီစိတွင်းတူးရန် လျှောက်ထားရမည်ဖြစ်ကြောင်း၊ ကားပါကင်၊ Drainage System တို့ကိုထည့်သွင်းဆောက်လုပ်ထားပြီး Water Treatment ဆောင်ရွက်မည်ဖြစ်ကြောင်း၊ အဆိုပြုချက်တွင် စာလုံးပေါင်းများမှားနေသည်ကို ပြန်လည်ပြင်ဆင်တင်ပြပေးမည်ဖြစ်ပြီး အခြားပြင်ဆင်တင်ပြပေးရန်ရှိသည်များကိုလည်း ပြန်လည်ပြင်ဆင်တင်ပြပေးမည်ဖြစ်ကြောင်း ရှင်းလင်းတင်ပြပါသည်။

အစည်းအဝေးမှ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Megason Investment Co., Ltd. မှ အထပ်(၂၆)ထပ်ပါ The Prestige Residential Complex Project တည်ဆောက်၍ အခန်းများ ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စအား အောက်ပါအတိုင်း ဆုံးဖြတ်ပါသည်-

(က) Bill of Quantity (BQ) တင်ပြရန်။

(ခ) သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြင်ဆင်တင်ပြလာပါက ကော်မရှင် အစည်းအဝေးသို့ တင်ပြရန်။

၇။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Jardine CM Restaurant Group Co., Ltd. တည်ထောင်၍ Pizza Hut ကုန်အမှတ်တံဆိပ်ဖြင့် (အိမ်တိုင်ရာရောက် ပို့ဆောင်ပေးခြင်း အပါအဝင်) အစားအသောက်များ ပြင်ဆင်ပေးခြင်း၊ ရောင်းချပေးခြင်းနှင့် ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူး ဒေါ်ဆင့်ဆင့်သန်းက အမှာစာကို ရှင်းလင်းတင်ပြပါသည်။

ကုမ္ပဏီ၏ ဒါရိုက်တာ Mr. Lee Jun Xian, Ronald က ရှင်းလင်းတင်ပြရာတွင် CM Food Co., Ltd. (မြန်မာ)မှ ၅၀% နှင့် Jardine Restaurant Group Myanmar Pte. Limited (စင်ကာပူ)

| ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|
| ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်း ကိစ္စနှင့်စပ်လျဉ်း၍-<br>(၁) မြေငှားရန်(မိတ္တူ) တင်ပြရန်။<br>(၂) သဘောထားများ စုံလင်ပြီး လိုအပ်ချက်များ ပြင်ဆင်တင်ပြလာပါက ကော်မရှင် အစည်းအဝေးသို့ တင်ပြရန်။ | Peng Sheng Wood China Co., Ltd. |
| (ဂ) ရခိုင်ရှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Magic Link Co., Ltd. မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် စက်မှုဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ နှင့်စပ်လျဉ်း၍ လိုအပ်ချက်များ ပြည့်စုံစွာ ဆောင်ရွက်ပြီးမှသာ အဆိုပြုချက်အား ပြန်လည်တင်ပြရန်။ | အဆိုပြုချက် စိစစ်ရေးအဖွဲ့၊ Myanmar Magic Link Co., Ltd. |
| (ဃ) ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Megason Investment Co., Ltd. မှ အထပ်(၂၆)ထပ်ပါ The Prestige Residential Complex Project တည်ဆောက်၍ အခန်းများ ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍-<br>(၁) Bill of Quantity (BQ) တင်ပြရန်။<br>(၂) သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြင်ဆင်တင်ပြလာပါက ကော်မရှင် အစည်းအဝေးသို့ တင်ပြရန်။ | အဆိုပြုချက် စိစစ်ရေးအဖွဲ့၊ Megason Investment Co., Ltd. |
| (င) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Jardine CM Restaurant Group Co., Ltd. တည်ထောင်၍ Pizza Hut ကုန်အမှတ်တံဆိပ်ဖြင့် (အိမ်တိုင်ရာရောက် ပို့ဆောင်ပေးခြင်း အပါအဝင်) အစားအသောက်များ ပြင်ဆင်ပေးခြင်း၊ ရောင်းချပေးခြင်းနှင့် ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စနှင့်စပ်လျဉ်း၍-<br>(၁) အရှုံး/အမြတ်စာရင်းတွင် ကုန်သွယ်လုပ်ငန်းခွန်အား ၅ % နှင့် ပြင်ဆင်တွက်ချက် တင်ပြရန်။<br>(၂) ရာထူးအလိုက် ဝန်ထမ်းဦးရေဖော်ပြပေးရန်။<br>(၃) ကုန်ကြမ်းနှင့် စက်ပစ္စည်းများ စာရင်းအား ပြည်တွင်း/ | အဆိုပြုချက် စိစစ်ရေးအဖွဲ့၊ Jardine CM Restaurant Group Co., Ltd. |

၁၄။ အစည်းအဝေးကို မွန်းလွဲ(၃း၄၅) နာရီတွင် ရုပ်သိမ်းပါသည်။

မှတ်တမ်းတင်သူ

(လင်းထွဋ်)
ညွှန်ကြားရေးမှူး

စာအမှတ်၊ ရက-၆/ ၁/၂၀၁၅ ( ၄၀၇၅ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် မေလ ၁၈ ရက်
**ဖြန့်ဝေခြင်း**
အစည်းအဝေးတက်ရောက်သူများအားလုံး

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၅ ခုနှစ် မေလ ၂ ရက်

အကြောင်းအရာ။ **ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြရန်ကိစ္စ**

၁။ မြန်မာနိုင်ငံ Top Home Made Foodstuff Trading Co., Ltd မှ (၅%)၊ ဦးစိုင်းလုံပေါင်းမှ (၁၇.၅ %)၊ ဦးစိုင်းဝမ်းမိုင်းမှ (၁၇.၅ %) နှင့် တရုတ်နိုင်ငံ Sichuan Jinhui Tianfu Investment Co., Ltd မှ(၆၀%)တို့ ဖက်စပ်ပြုလုပ်၍ Megason Investment Co., Ltd. တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ အထက်ပုဇွန်တောင်လမ်း၊ အကွက်အမှတ် (13A/2-1,A2)၊ အဆောက်အဦအမှတ်(5A)ရှိ မြေ ၁၁၂၄၆ စတုရန်းမီတာ (၂.၇၇၉ဧက)တွင် အထပ်(၂၆)ထပ်ပါ The Prestige Residential Complex Project (၄)လုံး တည်ဆောက်၍ အခန်းများ ငှားရမ်းခြင်း ဝန်ဆောင်မှု လုပ်ငန်းအား နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဆန်းသွင် (အဘ-ဦးအုန်းလှိုင်)မှ အဆိုပြုချက် တင်ပြလာခြင်းအား ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနသို့ သဘောထားတောင်းခံခဲ့ပါသည်။

၂။ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာနမှ အဆိုပြုလုပ်ငန်းအပေါ် အောက်ဖော်ပြပါ အချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထား ပြန်ကြားလာပါသည်-

(က) အဆိုပြုလုပ်ငန်းဆောင်ရွက်မှုကြောင့်ဖြစ်ပေါ်လာနိုင်သည့်ပတ်ဝန်းကျင်၊ လူမှုရေး နှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန် အတွက် လုပ်ငန်း စီမံချက်ရေးဆွဲခြင်း၊ ဆောက်လုပ်ခြင်းနှင့် လုပ်ငန်းလည်ပတ်ခြင်း အဆင့်ဆင့်တို့ အတွက် ဆောင်ရွက်မည့် လုပ်ငန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် နည်းစနစ်များနှင့် စက်ကိရိယာများ အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာ တာဝန်ခံ ဆောင်ရွက်မှုအတွက် အသားတင် အမြတ်ငွေ၏(၂%)အားအသုံးပြုခြင်းတို့ အပါအဝင်ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ခ) ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမရှိစေရေး(သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေ ရေးတို့အတွက် ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)ကို လုပ်ငန်းဆောင်ရွက်ရန်။

(ဂ) အဆိုပါ လေ့လာဆန်းစစ် တွေ့ရှိချက်များအပေါ် အခြေခံ၍ စွန့်ပစ်ပစ္စည်းများအား စနစ်တကျစွန့်ပစ်မည့် အစီအစဉ်များ အပါအဝင် ပတ်ဝန်းကျင်ဆိုင်ရာ အစီအမံများ၊ စောင့်ကြည့်လေ့လာမည့်အစီအစဉ်၊ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

Plan-EMP) ရေးဆွဲတင်ပြရန်နှင့် EMP စီမံချက်တွင် ပါရှိသည့်အတိုင်း အကောင်အထည် ဖော်ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း များ၊ ညွှန်ကြားချက်များ၊ စံချိန်စံညွှန်းများနှင့်အညီ လိုက်နာကျင့်သုံးအကောင်အထည် ဖော်ဆောင်ရွက်သွားရန်။

၃။ သို့ဖြစ်ပါ၍ Megason Investment Co., Ltd. မှ ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထားနှင့်အညီ ရေးဆွဲပြုစု၍ တင်ပြရန်အကြောင်းကြားမည့် **စာချော**တွင် လက်မှတ်ရေးထိုးပေးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

| | **ရေးသွင်းသူ** | **စိစစ်သူ** |
|---|---|---|
| လက်မှတ် | [signature] 27/5/15 | [signature] |
| အမည် | (စိုးသီဟ) | (သန်းသန်းနု) |
| ရာထူး | ဒုတိယဦးစီးမှူး | လက်ထောက်ညွှန်ကြားရေးမှူး |

**ညွှန်ကြားရေးမှူး**

၄။ [illegible]

[signature] [illegible]

[illegible]

၅။ [illegible]

[illegible]

[illegible]

[signature]

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

ဖက်(စ်) ၀၁-၆၅၈၁၃၃ | စာအမှတ်၊ ရက- ၄/န-၀၂၂/၂၀၁၅( ၄၁၅ )
☎ -၀၁-၆၅၈၁၂၉ | ရက်စွဲ၊ ၂၀၁၅ ခုနှစ် မေ လ ၂၈ ရက်

အကြောင်းအရာ ။ **ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြရန်ကိစ္စ**

ရည် ညွှန်း ချက် ။ (၁) Megason Investment Co., Ltd. ၏ ၄-၅-၂၀၁၅ ရက်စွဲပါတင်ပြစာ

(၂) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၁၁-၅-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက- ၄/န-၀၂၂ / ၂၀၁၅ (၃၅၆)

(၃) ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ ၂၀-၅-၂၀၁၅ ရက်စွဲပါ စာအမှတ် ၃(၁)/၁၁(က)(၅)/(၅၉၃/၂၀၁၅)

၁။ မြန်မာနိုင်ငံ Top Home Made Foodstuff Trading Co., Ltd မှ (၅%)၊ ဦးစိုင်းလုံပေါင်းမှ (၁၇.၅ %)၊ ဦးစိုင်းဝမ်းမိုင်းမှ (၁၇.၅ %) နှင့် တရုတ်နိုင်ငံ Sichuan Jinhui Tianfu Investment Co., Ltd မှ(၆၀%)တို့ ဖက်စပ်ပြုလုပ်၍ Megason Investment Co., Ltd. တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ အထက်ပုဇွန်တောင်လမ်း၊ အကွက်အမှတ် (13A/2-1,A2)၊ အဆောက်အဦအမှတ်(5A)ရှိ မြေ ၁၁၂၄၆ စတုရန်းမီတာ (၂.၇၇၉ဧက)တွင် အထပ်(၂၆)ထပ်ပါ The Prestige Residential Complex Project (၄)လုံး တည်ဆောက်၍ အခန်းများ ငှားရမ်းခြင်း ဝန်ဆောင်မှု လုပ်ငန်းအား နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဆန်းသွင် (အဘ-ဦးအုန်းလှိုင်)မှ ရည်ညွှန်း(၁)ပါစာဖြင့် အဆိုပြုချက် တင်ပြလာခြင်းအား ရည်ညွှန်း (၂)ပါစာဖြင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနသို့ သဘောထား တောင်းခံခဲ့ပါသည်။

၂။ ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာနမှ အဆိုပြုလုပ်ငန်းအပေါ် ရည်ညွှန်း(၃)ပါစာဖြင့် အောက်ဖော်ပြပါ အချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထား ပြန်ကြားလာပါသည်-

(က) အဆိုပြုလုပ်ငန်းဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံချက် ရေးဆွဲခြင်း၊ ဆောက်လုပ်ခြင်းနှင့် လုပ်ငန်းလည်ပတ်ခြင်း အဆင့်ဆင့်တို့အတွက် ဆောင်ရွက်မည့် လုပ်ငန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် နည်းစနစ်များနှင့် စက်ကိရိယာများ အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြပါရှိသည့် လူမှုရေးဆိုင်ရာ တာဝန်ခံ ဆောင်ရွက်မှုအတွက် အသားတင်အမြတ်ငွေ၏ (၂%) အား အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ခ) ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမရှိစေရေး(သို့မဟုတ်) ထိခိုက်မှုအနည်းဆုံး ဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)ကို လုပ်ငန်းဆောင်ရွက်ရန်။

(ဂ) အဆိုပါ လေ့လာဆန်းစစ်တွေ့ရှိချက်များအပေါ် အခြေခံ၍ စွန့်ပစ်ပစ္စည်းများအား စနစ်တကျစွန့်ပစ်မည့် အစီအစဉ်များ အပါအဝင် ပတ်ဝန်းကျင်ဆိုင်ရာ အစီအမံများ၊ စောင့်ကြည့်လေ့လာမည့်အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက်သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan - EMP) ရေးဆွဲတင်ပြရန်နှင့် EMP စီမံချက်တွင် ပါရှိသည့်အတိုင်း အကောင်အထည် ဖော်ဆောင်ရွက်ရန်။

၃။ သို့ဖြစ်ပါ၍ စာပိုဒ်(၂)ပါ အချက်များအား သိရှိနိုင်ပါရန်နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ဆောင်ရွက်မည့်အစီအစဉ်များအား ကော်မရှင်သို့ ပြန်လည်တင်ပြပေးရန် အကြောင်းကြားပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

Megason Investment Co., Ltd.

မိတ္တူ

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန

ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန

ရုံးလက်ခံ/ မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
အထပ်မြင့်အဆောက်အအုံတည်ဆောက်ရေးစီမံကိန်းများကြီးကြပ်စစ်ဆေးရေးပညာရှင်အဖွဲ့
အမှတ် ၂၂၈–၂၃၄ ဗိုလ်ချုပ်အောင်ဆန်းလမ်း
**Ph /Fax : 01-245670 / 09-731-89038**

M4-283
20.5.15
M3-487
1915

စာအမှတ် ဝ- ၃၁၈ / CQHP / ၂၀၁၅
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ မေလ (၁၈)ရက်

သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

**အကြောင်းအရာ။** **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ။**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၁၁.၅.၂၀၁၅)ရက်စွဲပါစာအမှတ်၊ရက–၄/န–၀၂၂/၂၀၁၅(၃၅၉)။

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက်ပါစာဖြင့် မြန်မာနိုင်ငံ Top Home Made Foodstuff Trading Co., Ltd. မှ (၅%)၊ ဦးစိုင်းလုံပေါင်မှ (၁၇.၅%)၊ ဦးစိုင်းဝမ်းမိုင်းမှ (၁၇.၅%) နှင့် တရုတ်နိုင်ငံ Sichuan Jinhui Tianful Investment Co., Ltd. မှ (၆၀%)တို့ ဖက်စပ်ပြုလုပ်၍ Megason Investment Co., Ltd. တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ အကွက်အမှတ်(13A/2-1,A2)၊ အဆောက်အအုံ အမှတ် (5A) ရှိ မြေ ၁၁၂၄၆ စတုရန်းမီတာ (၂.၇၇၉၈ဧက)တွင် အထပ်(၂၆)ထပ်ပါ The Prestige Residential Complex Project (၄)လုံး တည်ဆောက်၍ အခန်းများငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်မည့်လုပ်ငန်းနှင့်ပက်သက်၍ အထပ်မြင့်အဆောက်အအုံတည်ဆောက်ရေးစီမံကိန်းများ ကြီးကြပ်စစ်ဆေးရေးပညာရှင်အဖွဲ့သို့ သဘောထားမှတ်ချက် တောင်းခံခဲ့ပါသည်။

၂။ အထက်ပါကိစ္စနှင့်ပတ်သက်၍ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် တင်ပြလာခြင်းအပေါ် Layout Plan, Bill of Quantities, Engineering Drawing များပေးပို့ခြင်းမရှိသေးသည့်အတွက် ပေးပို့လာသော Architectural Conceptual Drawing အပေါ်သာ အောက်ပါအတိုင်း သဘောထားမှတ်ချက် ပေးပို့အပ်ပါသည်–

(က) အဆိုပြုစီမံကိန်းတွင် Building Coverage Ratio 0.506 သို့မဟုတ် 50.6% ရှိ၍ လက်ခံနိုင်သောအနေအထားတွင် ရှိပါသည်။

(ခ) အဆိုပြု Floor Area Ratio မှာ 7.53 ရှိ၍ လူနေထိုင်မှုသက်သက်အတွက် အသုံးပြုမည်ဆိုပါက သတ်မှတ်ထားသော Floor Area Ratio 4.5 ထက်ကျော်လွန်နေပါသည်။ Mix-use အနေဖြင့် အသုံးပြုမည်ဆိုပါက Floor Area Ratio 8 အထိလက်ခံနိုင်၍ ဘောင်ဝင်ပါသည်။

(ဂ) လူနေသက်သက် Pure Residential အသုံးအတွက် တွက်ချက်မည်ဆိုပါက Density မှာ တစ်ဧကလျှင် ၈၅၅ ဦးနှုန်း ရှိပါသည်။ Mix-use အနေဖြင့် အသုံးပြုမည်ဆိုပါက Occupancy 80% ဖြင့်တွက်မည်ဆိုပါက Density မှာ တစ်ဧကလျှင် ၆၈၄ ဦးရှိပါသည်။ သို့ဖြစ်ပါ၍ လူဦးရေသိပ်သည်းခြင်း တစ်ဧကလျှင် ၅၀၀ ဦးထက်မကျော်လွန်ရန် ပြန်လည်ပြင်ဆင်ပေးရန် လိုအပ်ပါသည်။

(ဃ) အဆိုပြုပုံစံတွင် ကားရပ်နားရန်နေရာ ၅၉၂ စီးရှိကြောင်းတင်ပြထားပါသည်။ Mechanical Lift System ဖြင့်အသုံးပြုမှသာ ကားအစီးရေ ၅၉၂ စီး ရပ်နားနိုင်မည်ဖြစ်ပါသည်။ Simple Lift System ဖြင့် အသုံးပြုမည်ဆိုပါက ကားအစီးရေ ၅၅၂ စီးအတွက်သာ ရပ်နားရန်နေရာရှိပါသည်။ သို့ဖြစ်၍လက်ရှိ အခန်း ၄၈၄ ခန်းအတွက် 120% ဖြင့်တွက်ချက်မည်ဆိုပါက လိုအပ်ချက် ၅၈၁ စီးဖြစ်၍ မလုံလောက်ပါ။

(င) Layout Plan တင်ပြထားခြင်းမရှိသေးသည့်အတွက် ရေနှင့်မိလ္လာ သန့်စင်မှုစနစ်နှင့် လျှပ်စစ်ပိုင်းဆိုင်ရာ ဝန်ဆောင်မှုများအတွက် လိုအပ်သော နေရာချထားမှုများကို စစ်ဆေးရန်မဖြစ်နိုင်သေးပါ။

(ဥက္ကဋ္ဌကိုယ်စား)
(မြင့်သိန်း–အတွင်းရေးမှူး)
အထပ်မြင့်အဆောက်အအုံတည်ဆောက်ရေး
စီမံကိန်းများကြီးကြပ်စစ်ဆေးရေးပညာရှင်အဖွဲ့
CQHP

မိတ္တူကို –

၁။ Megason Investment Co., Ltd။
၂။ ရုံးလက်ခံ။

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၅ ခုနှစ် မေလ ၁၃ ရက်

M3-326 / 14/5

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Megason Investment Co., Ltd. မှ အထပ်(၂၆)ထပ်ပါ The Prestige Residential Complex Project တည်ဆောက်၍အခန်းများငှားရမ်းခြင်းဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

P1. 2086 / 14/5

၁။ အထက်အကြောင်းရာပါကိစ္စနှင့် စပ်လျဉ်း၍ အဆိုပြုချက်တွင် ပါဝင်သော ချေးငွေစာချုပ်(မူကြမ်း)၊Joint Venture Agreement နှင့် Lease Agreement သဘောတူစာချုပ်(မူကြမ်း) များအပေါ် ဥပဒေရှုထောင့်မှ စိစစ်ပေးနိုင်ပါရန် အဆိုပြုချက်တစ်စုံနှင့်အတူ ပေးပို့အပ် ပါသည်။

[illegible] 13/5/15
(စိုးသီဟ)
ဒုတိယဦးစီးမှူး

**ဦးစီးအရာရှိ**

၂။ [illegible]

[illegible] 13/5/15

[illegible]

[illegible]

၃။ [illegible]

[illegible] 13/5
[illegible]

[illegible]

၄။ [illegible] 13.5.

[illegible] ( P.2 )

MEGASON Ns( INV-3)

M3-353
22/5

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၅ ခုနှစ် မေ လ ၂၂ ရက်

အကြောင်းအရာ။ **အထပ်မြင့် အဆောက်အအုံ တည်ဆောက်ရေး စီမံကိန်းများ ကြီးကြပ်စစ်ဆေးရေး ပညာရှင်အဖွဲ့ (CQHP)၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြရန်ကိစ္စ**

၁။ မြန်မာနိုင်ငံ Top Home Made Foodstuff Trading Co., Ltd မှ (၅%)၊ ဦးစိုင်းလုံပေါင်း မှ (၁၇.၅ %)၊ ဦးစိုင်းဝမ်းမိုင်းမှ (၁၇.၅ %) နှင့် တရုတ်နိုင်ငံ Sichuan Jinhui Tianfu Investment Co., Ltd မှ(၆၀%)တို့ ဖက်စပ်ပြုလုပ်၍ Megason Investment Co., Ltd. တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ အထက်ပုဇွန်တောင်လမ်း၊ အကွက်အမှတ် (13A/2-1,A2)၊ အဆောက်အဦ အမှတ်(5A) ရှိ မြေ ၁၁၂၄၆ စတုရန်းမီတာ (၂.၇၇၉ဧက)တွင် အထပ်(၂၆)ထပ်ပါ The Prestige Residential Complex Project (၄)လုံး တည်ဆောက်၍ အခန်းများ ငှားရမ်းခြင်း ဝန်ဆောင်မှု လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဆန်းသွင်(အဘ-ဦးအုန်းလှိုင်)မှ အဆိုပြုချက်တင်ပြလာခြင်းကို အထပ်မြင့်အဆောက်အအုံတည်ဆောက်ရေး စီမံကိန်းများကြီးကြပ်စစ်ဆေးရေးပညာရှင်အဖွဲ့(CQHP)သို့ သဘောထားတောင်းခံခဲ့ပါသည်။

၂။ အထပ်မြင့် အဆောက်အအုံ တည်ဆောက်ရေး စီမံကိန်းများ ကြီးကြပ် စစ်ဆေးရေး ပညာရှင်အဖွဲ့(CQHP)မှ အဆိုပြုလုပ်ငန်းအပေါ် အောက်ဖော်ပြပါအချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ပါကြောင်းသဘောထားပြန်ကြားလာပါသည်-

(က) လူနေသက်သက် Pure Residential အသုံးအတွက် တွက်ချက်မည်ဆိုပါက Density မှာ တစ်ဧကလျှင် ၈၅၅ ဦးနှုန်း၊ Mix-use အနေဖြင့် အသုံးပြုမည်ဆိုလျှင် Occupancy ၈၀% ဖြင့် တွက်မည်ဆိုပါက Density မှာ တစ်ဧကလျှင် ၆၈၄ ဦး ရှိပါသဖြင့်လူဦးရေသိပ်သည်းခြင်းတစ်ဧက လျှင် ၅၀၀ ဦး ထက်မကျော်လွန်ရန်အတွက် ပြန်လည် ပြင်ဆင်ပေးရန် လိုအပ်ပါကြောင်း။

(ခ) အဆိုပြုပုံစံတွင် ကားရပ်နားရန်နေရာ ၅၉၂ စီးရှိကြောင်း တင်ပြထားသော်လည်း Mechanical Lift System ဖြင့် အသုံးပြုမှသာကားအစီးရေ ၅၉၂ စီးရပ်နားနိုင်မည်ဖြစ်ပါသည်။ Simple Lift System ဖြင့် အသုံးပြုမည်ဆိုပါက ကား အစီးရေ ၅၅၂ စီးအတွက်သာရပ်နားရန်နေရာရှိပါသည်။ သို့ဖြစ်၍လက်ရှိအခန်း ၄၈၄ ခန်းအတွက် ၁၂၀ % ဖြင့် တွက်ချက်မည်ဆိုပါလိုအပ်ချက် ၅၈၁ စီးဖြစ်၍ မလုံလောက်ပါကြောင်း ။

(ဂ) Layout Plan တင်ပြထားခြင်း မရှိသေးသည့်အတွက် ရေနှင့်မိလ္လာသန့်စင်မှုစနစ်နှင့် လျှပ်စစ်ပိုင်းဆိုင်ရာ ဝန်ဆောင်မှုများအတွက်လိုအပ်သော နေရာချထားမှုများကို စစ်ဆေးရန် မဖြစ်နိုင်သေးပါကြောင်း။

၃။ သို့ဖြစ်ပါ၍ Megason Investment Co., Ltd. မှ အထပ်မြင့် အဆောက်အအုံ တည်ဆောက်ရေး စီမံကိန်းများကြီးကြပ် စစ်ဆေးရေးပညာရှင် အဖွဲ့(CQHP)၏ သဘောထားမှတ်ချက်နှင့် ကော်မရှင်သို့ ပြန်လည်တင်ပြရန် အကြောင်းကြားမည့် **စာချော**တွင် လက်မှတ်ရေးထိုးပေးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

| | **ရေးသွင်းသူ** | **စိစစ်သူ** |
|---|---|---|
| လက်မှတ် | [illegible] 21/5/15 | [illegible] 21/5 |
| အမည် | (စိုးသီဟ) | (သန်းသန်းနု) |
| ရာထူး | ဒုတိယဦးစီးမှူး | လက်ထောက်ညွှန်ကြားရေးမှူး |

**ညွှန်ကြားရေးမှူး**

၄။ [illegible]

[illegible]

[illegible]

[illegible]

[illegible]

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

ဖက်(စ်) ၀၁-၆၅၈၁၃၃ 　　　　စာအမှတ်၊ ရက- ၄/န-၀၂၂/၂၀၁၅( ၄၀၇ ).

☎ -၀၁-၆၅၈၁၂၉ 　　　　ရက်စွဲ၊ ၂၀၁၅ ခုနှစ် မေ လ ၃၁ ရက်

အကြောင်းအရာ ။ **အထပ်မြင့်အဆောက်အအုံ တည်ဆောက်ရေးစီမံကိန်းများကြီးကြပ်စစ်ဆေးရေးပညာရှင်အဖွဲ့(CQHP)၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြရန်ကိစ္စ**

ရည်ညွှန်းချက် ။ (၁) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၁၁-၅-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက- ၄/န-၀၂၂/၂၀၁၅ (၃၅၉)

(၂) အထပ်မြင့် အဆောက်အအုံတည်ဆောက်ရေး စီမံကိန်းများ ကြီးကြပ်စစ်ဆေးရေး ပညာရှင်အဖွဲ့၏ ၁၈-၅-၂၀၁၅ ရက်စွဲပါစာ အမှတ် ဝ-၃၁၈/ CQHP/၂၀၁၅

၁။ မြန်မာနိုင်ငံ Top Home Made Foodstuff Trading Co., Ltd မှ (၅%)၊ ဦးစိုင်းလုံပေါင်းမှ (၁၇.၅ %)၊ ဦးစိုင်းဝမ်းမိုင်းမှ (၁၇.၅ %) နှင့် တရုတ်နိုင်ငံ Sichuan Jinhui Tianfu Investment Co., Ltd မှ(၆၀%)တို့ ဖက်စပ်ပြုလုပ်၍ Megason Investment Co., Ltd. တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ အထက်ပုဇွန်တောင်လမ်း၊ အကွက်အမှတ်(13A/2-1,A2)၊ အဆောက်အဦ အမှတ်(5A) ရှိ မြေ ၁၁၂၄၆ စတုရန်းမီတာ (၂.၇၇၉ဧက)တွင် အထပ်(၂၆)ထပ်ပါ The Prestige Residential Complex Project (၄)လုံး တည်ဆောက်၍ အခန်းများ ငှားရမ်းခြင်း ဝန်ဆောင်မှု လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဆန်းသွင်(အဘ-ဦးအုန်းလှိုင်)မှ အဆိုပြုချက် တင်ပြလာခြင်းအား ရည်ညွှန်း(၁)ပါစာဖြင့်အထပ်မြင့်အဆောက်အအုံတည်ဆောက်ရေး စီမံကိန်းများ ကြီးကြပ်စစ်ဆေးရေးပညာရှင်အဖွဲ့ (CQHP)သို့ သဘောထားတောင်းခံခဲ့ပါသည်။

၂။ အထပ်မြင့်အဆောက်အအုံတည်ဆောက်ရေး စီမံကိန်းများ ကြီးကြပ် စစ်ဆေးရေးပညာရှင်အဖွဲ့(CQHP)မှ အဆိုပြုလုပ်ငန်းအပေါ် ရည်ညွှန်း(၂)ပါစာဖြင့် အောက်ဖော်ပြပါအချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထား ပြန်ကြားလာပါသည်-

(က) လူနေသက်သက် Pure Residential အသုံးအတွက် တွက်ချက်မည်ဆိုပါက Density မှာ တစ်ဧကလျှင် ၈၅၅ ဦးနှုန်း၊ Mix-use အနေဖြင့် အသုံးပြုမည်ဆိုလျှင် Occupancy ၈၀% ဖြင့် တွက်မည်ဆိုပါက Density မှာ တစ်ဧကလျှင် ၆၈၄ ဦး ရှိပါသဖြင့် လူဦးရေသိပ်သည်းခြင်း တစ်ဧကလျှင် ၅၀၀ ဦးထက် မကျော်လွန်ရန် အတွက် ပြန်လည်ပြင်ဆင်ပေးရန် လိုအပ်ပါကြောင်း။

(ခ) အဆိုပြု[illegible] ကားရပ်နားရန်နေ[illegible] ၅၉၂ စီးရှိ[illegible] တင်ပြထားသော[illegible] Mechanical Lift System ဖြင့် အသုံးပြုမှသာ ကားအစီးရေ ၅၉၂ စီး ရပ်နားနိုင်မည်ဖြစ်ပါသည်။ Simple Lift System ဖြင့် အသုံးပြုမည်ဆိုပါက ကားအစီးရေ ၅၅၂ စီးအတွက်သာ ရပ်နားရန်နေရာရှိပါသည်။ သို့ဖြစ်၍ လက်ရှိ အခန်း ၄၈၄ ခန်းအတွက် ၁၂၀ % ဖြင့် တွက်ချက်မည်ဆိုပါလိုအပ်ချက် ၅၈၁ စီးဖြစ်၍ မလုံလောက်ပါကြောင်း ။

(ဂ) Layout Plan တင်ပြထားခြင်း မရှိသေးသည့်အတွက် ရေနှင့်မိလ္လာ သန့်စင်မှုစနစ်နှင့် လျှပ်စစ်ပိုင်းဆိုင်ရာ ဝန်ဆောင်မှုများအတွက် လိုအပ်သော နေရာချထားမှုများကို စစ်ဆေးရန် မဖြစ်နိုင်သေးပါကြောင်း။

၃။ သို့ဖြစ်ပါ၍ အထက်အပိုဒ်(၂)ပါ အချက်များအား သိရှိနိုင်ပါရန်နှင့် အထပ်မြင့် အဆောက်အအုံ တည်ဆောက်ရေး စီမံကိန်းများကြီးကြပ် စစ်ဆေးရေးပညာရှင် အဖွဲ့(CQHP)၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြရန်နှင့် Layout Plan အား ဆောလျင်စွာ တင်ပြပေးရန် အကြောင်းကြားပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)

(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

Megason Investment Co., Ltd.

မိတ္တူ

အထပ်မြင့်အဆောက်အအုံတည်ဆောက်ရေး စီမံကိန်းများကြီးကြပ် စစ်ဆေးရေးပညာရှင် အဖွဲ့(CQHP)

ရုံးလက်ခံ/မျှောစာတွဲ

MEGASON(CQHP)Rp
MEGASON(CQHP)Rp

DG 22 7/5/15

Mg 309 12/5

DDG GS 7/5

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၅ ခုနှစ် မေလ ၇ ရက်

အကြောင်းအရာ။ **သဘောထားမှတ်ချက်များ တောင်းခံခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံ Top Home Made Foodstuff Trading Co., Ltd မှ (၅%)၊ ဦးစိုင်းလုံပေါင်း မှ (၁၇.၅ %)၊ ဦးစိုင်းဝမ်းမိုင်းမှ (၁၇.၅ %) နှင့် တရုတ်နိုင်ငံ Sichuan Jinhui Tianfu Investment Co., Ltd မှ(၆၀%)တို့ ဖက်စပ်ပြုလုပ်၍ Megason Investment Co., Ltd. တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ အကွက်အမှတ် (13A/2-1,A2)၊ အဆောက်အဦ အမှတ်(5A) ရှိ မြေ ၁၁၂၄၆ စတုရန်းမီတာ (၂.၇၇၉ဧက)တွင် အထပ်(၂၆)ထပ်ပါ The Prestige Residential Complex Project (၄)လုံး တည်ဆောက်၍အခန်းများ ငှားရမ်းခြင်း ဝန်ဆောင်မှု လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဆန်းသွင် (အဘ-ဦးအုန်းလှိုင်)မှ အဆိုပြုချက် တင်ပြလာပါသည်။

၂။ အဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ ရန်ကုန်တိုင်း ဒေသကြီးအစိုးရအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၊ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၊ မြန်မာနိုင်ငံ အင်ဂျင်နီယာအသင်း၊ အထပ်မြင့် အဆောက်အအုံ တည်ဆောက်ရေး စီမံကိန်းများ ကြီးကြပ်စစ်ဆေးရေး ပညာရှင်အဖွဲ့တို့သို့ သဘောထားများတောင်းခံမည့် **စာချော**များတွင် လက်မှတ်ရေးထိုးပေးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

7/5/15
(စိုးသီဟ)
ဒုတိယဦးစီးမှူး

**ဦးစီးအရာရှိ**

၃။ Megason Investment Co., Ltd. ၏ [illegible] သဘောထားများ တောင်းခံမည့် စာချော [illegible] တွင် လက်မှတ်ရေးထိုးပေးနိုင်ပါရန် [illegible]

7/5/15
[illegible]

ဒု/ဌ - ညွှန်မှူး

၄။ [illegible]

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့
ဖက်(စ်)-၀၁-၆၅၈၁၃၇
☎ -၀၁-၆၅၈၁၂၉

စာအမှတ်၊ရက-၄/န-၀၂၂/ ၂၀၁၅ ( ၃၅၅ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် မေလ ၇၇ ရက်

သို့

**ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့**

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ Megason Investment Co., Ltd. ၏ ၄-၅-၂၀၁၅ ရက်စွဲပါတင်ပြစာ

၁။ မြန်မာနိုင်ငံ Top Home Made Foodstuff Trading Co., Ltd မှ (၅%)၊ ဦးစိုင်းလုံပေါင်းမှ (၁၇.၅ %)၊ ဦးစိုင်းဝမ်းမိုင်းမှ (၁၇.၅ %) နှင့် တရုတ်နိုင်ငံ Sichuan Jinhui Tianfu Investment Co., Ltd မှ(၆၀%)တို့ ဖက်စပ်ပြုလုပ်၍ Megason Investment Co., Ltd. တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ အကွက်အမှတ်(13A/2-1,A2)၊ အဆောက်အဦအမှတ်(5A) ရှိ မြေ ၁၁၂၄၆ စတုရန်းမီတာ (၂.၇၇၉ဧက)တွင် အထပ်(၂၆)ထပ်ပါ The Prestige Residential Complex Project (၄)လုံး တည်ဆောက်၍အခန်းများ ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူဦးဆန်းသွင် (အဘ-ဦးအုန်းလှိုင်)မှ ရည်ညွှန်းပါစာဖြင့် အဆိုပြုချက် တင်ပြလာပါသည်။

၂။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ အခန်း(၆)၊ အပိုဒ် (၄၃)ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကို စိစစ်ရာတွင် နေပြည်တော်ကောင်စီ သို့မဟုတ် တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အစိုးရအဖွဲ့၏သဘောထားကို တောင်းခံရယူရန် လိုအပ်ပါသည်။

၃။ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်ခွင့်အတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ စဉ်းစားရာတွင် သက်ဆိုင်ရာ တိုင်းဒေသကြီးနှင့် ပြည်နယ်အစိုးရ၏ ထောက်ခံချက်အား အထူးအလေးထား စဉ်းစားပါသဖြင့် ဝန်ကြီးချုပ်ကိုယ်တိုင် စိစစ်လက်မှတ်ရေးထိုးပြီး ထောက်ခံပေးပါရန်နှင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၊ အပိုဒ်(၄၄) နှင့်အညီ **ရက်သတ္တပတ် တစ်ပတ်အတွင်း** အောက်ပါအချက်များအပေါ် ပြန်ကြားပေးနိုင်ပါရန် အဆိုပြုချက်(တစ်)စုံအား ပူးတွဲပေးပို့လျက် ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုမည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်း ရှိ-မရှိ။

(ခ) မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူ ဖြစ်-မဖြစ်။

(ဂ) ဖော်ပြပါ မြေနေရာအား အဆိုပြုလုပ်ငန်းအတွက် သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိ-မရှိ။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်မည့် မြေနေရာ ဟုတ်-မဟုတ်။

(င) တိုင်းဒေသကြီး အစိုးရအဖွဲ့၏အကြံပြုချက်။

၄။ Megason Investment Co., Ltd. နှင့်ဆက်သွယ်ရန် လိပ်စာမှာ ဦးဆန်းသွင်၊ဖုန်းနံပါတ်၊ ၀၉-၄၃၁၄၇၆၀၃ ဖြစ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊အတွင်းရေးမှူး)

မိတ္တူကို

Megason Investment Co., Ltd.

ရုံးလက်ခံ/ မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့
ဖက်(စ်)၀၁-၆၅၈၃၄၃
☎-၀၁-၆၅၈၀၂၉

စာအမှတ်၊ ရက-၄/န-၀၂၂/၂၀၁၅ ( ၁၅၆ )
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် မေလ ၇၇ ရက်

သို့

**ပြည်ထောင်စုဝန်ကြီးရုံး**
**ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန**

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ Megason Investment Co., Ltd. ၏ ၄-၅-၂၀၁၅ ရက်စွဲပါတင်ပြစာ

၁။ မြန်မာနိုင်ငံ Top Home Made Foodstuff Trading Co., Ltd မှ (၅%)၊ ဦးစိုင်းလုံပေါင်းမှ (၁၇.၅ %)၊ ဦးစိုင်းဝမ်းမိုင်းမှ (၁၇.၅ %) နှင့် တရုတ်နိုင်ငံ Sichuan Jinhui Tianfu Investment Co., Ltd မှ(၆၀%)တို့ ဖက်စပ်ပြုလုပ်၍ Megason Investment Co., Ltd. တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ အကွက်အမှတ်(13A/2-1,A2)၊ အဆောက်အဦအမှတ်(5A) ရှိ မြေ ၁၁၂၄၆ စတုရန်းမီတာ (၂.၇၇၉ဧက)တွင် အထပ်(၂၆)ထပ်ပါ The Prestige Residential Complex Project (၄)လုံး တည်ဆောက်၍အခန်းများ ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဆန်းသွင် (အဘ-ဦးအုန်းလှိုင်)မှ ရည်ညွှန်းပါစာဖြင့် အဆိုပြုချက် တင်ပြလာပါသည်။

၂။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု နည်းဥပဒေအခန်း(၆)အပိုဒ် (၄၃)နှင့် (၄၅)ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက် စိစစ်ရာတွင် သက်ဆိုင်ရာ အဖွဲ့အစည်းများ၏ သဘောထားများကို တောင်းခံရယူရန် လိုအပ်ပါသည်။

၃။ ကော်မရှင် အနေဖြင့် လုပ်ငန်း အဆိုပြုလွှာများကို အမြန်ဆုံးစိစစ်ပေးရန် သမ္မတရုံးမှ ညွှန်ကြားထားပါသဖြင့် အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် အဆိုပါမြေနေရာတွင် လုပ်ငန်း ဆောင်ရွက်ရန် သင့်/မသင့် နှင့် သဘာဝ ပတ်ဝန်းကျင် ထိခိုက်မှု ရှိ-မရှိ စသည့် အချက်များအပေါ် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထား မှတ်ချက်အား စာလက်ခံရရှိသည့်နေ့မှစ၍ **ရက်သတ္တပတ် တစ်ပတ်**အတွင်း ပြန်ကြားပေးနိုင်ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

၄။ Megason Investment Co., Ltd. နှင့် ဆက်သွယ်ရန် လိပ်စာမှာ ဦးဆန်းသွင်၊ဖုန်းနံပါတ်၊ ၀၉-၄၃၁၄၇၆၀၃ ဖြစ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊အတွင်းရေးမှူး)

မိတ္တူ

ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

ဖက်(စ်)-၀၁-၆၅၈၁၃၇

☎ - ၀၁-၆၅၈၁၂၉

စာအမှတ်၊ရက-၄/န-၀၂၂/၂၀၁၅( ၃၅၇ )

ရက်စွဲ၊ ၂၀၁၅ ခုနှစ် မေ လ ၁၁ ရက်

သို့

ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ Megason Investment Co., Ltd. ၏ ၄-၅-၂၀၁၅ ရက်စွဲပါတင်ပြစာ

၁။ မြန်မာနိုင်ငံ Top Home Made Foodstuff Trading Co., Ltd မှ (၅%)၊ ဦးစိုင်းလုံပေါင်းမှ (၁၇.၅ %)၊ ဦးစိုင်းဝမ်းမိုင်းမှ (၁၇.၅ %) နှင့် တရုတ်နိုင်ငံ Sichuan Jinhui Tianfu Investment Co., Ltd မှ(၆၀%)တို့ ဖက်စပ်ပြုလုပ်၍ Megason Investment Co., Ltd. တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ အကွက်အမှတ်(13A/2-1,A2)၊ အဆောက်အဦ အမှတ်(5A) ရှိ မြေ ၁၁၂၄၆ စတုရန်းမီတာ (၂.၇၇၉ဧက)တွင် အထပ်(၂၆)ထပ်ပါ The Prestige Residential Complex Project (၄)လုံး တည်ဆောက်၍ အခန်းများငှားရမ်းခြင်း ဝန်ဆောင်မှု လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဆန်းသွင် (အဘ-ဦးအုန်းလှိုင်)မှ ရည်ညွှန်းပါစာဖြင့် အဆိုပြုချက် တင်ပြလာပါသည်။

၂။ ကော်မရှင်အနေဖြင့် လုပ်ငန်းအဆိုပြုလွှာများကို အမြန်ဆုံးစိစစ်ပေးရန် သမ္မတရုံးမှ ညွှန်ကြားထားပါသဖြင့် Megason Investment Co., Ltd. ၏ အထပ်(၂၆)ထပ်ပါ The Prestige Residential Complex Project (၄)လုံး တည်ဆောက်၍ အခန်းများငှားရမ်းခြင်း ဝန်ဆောင်မှု လုပ်ငန်းနှင့် စပ်လျဉ်း၍ အဆောက်အအုံ တည်ဆောက်ခြင်းအပေါ် စိစစ်သုံးသပ်၍ သဘောထားမှတ်ချက်အား **ရက်သတ္တပတ် တစ်ပတ်အတွင်း** ပြန်ကြားပေးပါရန် မေတ္တာရပ်ခံ အပ်ပါသည်။

၃။ Megason Investment Co., Ltd. နှင့် ဆက်သွယ်ရန် လိပ်စာမှာ ဦးဆန်းသွင်၊ ဖုန်းနံပါတ်၊ ၀၉-၄၃၁၄၇၆၀၃ သို့ ဆက်သွယ်ဆောင်ရွက်နိုင်ပါရန် အဆိုပြုချက် (တစ်)စောင် ပူးတွဲပေးပို့လျက် ညှိနှိုင်း မေတ္တာရပ်ခံအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)

(အောင်နိုင်ဦး၊အတွင်းရေးမှူး)

မိတ္တူကို

Megason Investment Co., Ltd.

ရုံးလက်ခံ / မျှောစာတွဲ

MEGASON (YCDC)INV-3INV-3

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

ဖက်(စ်)-၀၁-၆၅၈၀၁၃၇
၀၁-၆၅၈၁၂၉

စာအမှတ်၊ ရက-၄/န-၀၂၂/ ၂၀၁၅ ( ၃၅၈ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် မေလ ၁၁ ရက်

သို့

**ဥက္ကဋ္ဌ**
**မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း**

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက် ။ Megason Investment Co., Ltd. ၏ ၄-၅-၂၀၁၅ ရက်စွဲပါတင်ပြစာ

၁။ မြန်မာနိုင်ငံ Top Home Made Foodstuff Trading Co., Ltd မှ (၅%)၊ ဦးစိုင်းလုံပေါင်းမှ (၁၇.၅ %)၊ ဦးစိုင်းဝမ်းမိုင်းမှ (၁၇.၅ %) နှင့် တရုတ်နိုင်ငံ Sichuan Jinhui Tianfu Investment Co., Ltd မှ(၆၀%)တို့ ဖက်စပ်ပြုလုပ်၍ Megason Investment Co., Ltd. တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ အကွက်အမှတ်(13A/2-1,A2)၊ အဆောက်အဦအမှတ်(5A) ရှိ မြေ ၁၁၂၄၆ စတုရန်းမီတာ (၂.၇၇၉ဧက)တွင် အထပ်(၂၆)ထပ်ပါ The Prestige Residential Complex Project (၄)လုံး တည်ဆောက်၍အခန်းများ ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဆန်းသွင် (အဘ-ဦးအုန်းလှိုင်)မှ ရည်ညွှန်းပါစာဖြင့် အဆိုပြုချက် တင်ပြလာပါသည်။

၂။ သို့ဖြစ်ပါ၍ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်အား စာလက်ခံရရှိသည့်နေ့မှစ၍ **ရက်သတ္တပတ် တစ်ပတ်အတွင်း** ပြန်ကြားပေးပါရန် ရည်ညွှန်းစာပါ အဆိုပြုချက် တစ်စုံနှင့်အတူ Layout Plan, Conceptual Drawing, Bill of Quantities, Engineering Drawing တို့အား ပူးတွဲပေးပို့လျက် ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်။

၃။ Megason Investment Co., Ltd. နှင့် ဆက်သွယ်ရန် လိပ်စာမှာ ဦးဆန်းသွင်၊ဖုန်းနံပါတ်၊ ၀၉-၄၃၁၄၇၆၀၃ ဖြစ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
Megason Investment Co., Ltd.
ရုံးလက်ခံ / မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

ဖက်(စ်) ၀၁-၆၅၈၁၃၇
☎ - ၀၁-၆၅၈၁၂၉

စာအမှတ်၊ ရက-၄/န-၀၂၂/၂၀၁၅ ( ၃၅၉ )
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် မေလ ၁၁ ရက်

သို့

ဥက္ကဋ္ဌ
**အထပ်မြင့် အဆောက်အအုံ တည်ဆောက်ရေးစီမံကိန်းများ ကြီးကြပ်စစ်ဆေးရေး ပညာရှင်အဖွဲ့ (CQHP)**

အကြောင်းအရာ ။ **သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ Megason Investment Co., Ltd. ၏ ၄-၅-၂၀၁၅ ရက်စွဲပါတင်ပြစာ

၁။ မြန်မာနိုင်ငံ Top Home Made Foodstuff Trading Co., Ltd မှ (၅%)၊ ဦးစိုင်းလုံပေါင်းမှ (၁၇.၅ %)၊ ဦးစိုင်းဝမ်းမိုင်းမှ (၁၇.၅ %) နှင့် တရုတ်နိုင်ငံ Sichuan Jinhui Tianfu Investment Co., Ltd မှ(၆၀%)တို့ ဖက်စပ်ပြုလုပ်၍ Megason Investment Co., Ltd. တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ အကွက်အမှတ်(13A/2-1,A2)၊ အဆောက်အဦအမှတ်(5A) ရှိ မြေ ၁၁၂၄၆ စတုရန်းမီတာ (၂.၇၇၉ဧက)တွင် အထပ်(၂၆)ထပ်ပါ The Prestige Residential Complex Project (၄)လုံး တည်ဆောက်၍အခန်းများ ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဆန်းသွင် (အဘ-ဦးအုန်းလှိုင်)မှ ရည်ညွှန်းပါစာဖြင့် အဆိုပြုချက် တင်ပြလာပါသည်။

၂။ သို့ဖြစ်ပါ၍ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်အား စာလက်ခံရရှိသည့်နေ့မှစ၍ **ရက်သတ္တပတ် တစ်ပတ်အတွင်း** ပြန်ကြားပေးပါရန် ရည်ညွှန်းစာပါ အဆိုပြုချက် တစ်စုံနှင့်အတူ Layout Plan, Conceptual Drawing, Bill of Quantities, Engineering Drawing တို့အား ပူးတွဲပေးပို့လျှက် ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်။

၃။ Megason Investment Co., Ltd. နှင့် ဆက်သွယ်ရန် လိပ်စာမှာ ဦးဆန်းသွင်၊ဖုန်းနံပါတ်၊ ၀၉-၄၃၁၄၇၆၀၃ ဖြစ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊အတွင်းရေးမှူး)

မိတ္တူကို

Megason Investment Co., Ltd.

ရုံးလက်ခံ / မျှောစာတွဲ

ရုံးတွင်းစာအကျဉ်းချုပ်
သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၅ ခုနှစ် မေလ ၇ ရက်

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Megason Investment Co., Ltd. မှ အထပ်(၂၆)ထပ်ပါ The Prestige Residential Complex Project တည်ဆောက်၍အခန်းများငှားရမ်းခြင်းဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံ Top Home Made Foodstuff Trading Co., Ltd မှ (၄၀%) နှင့် တရုတ် နိုင်ငံ Sichuan Jinhui Tianfu Investment Co., Ltd မှ(၆၀%)တို့ ဖက်စပ်ပြုလုပ်၍ မြန်မာနိုင်ငံ တွင် Megason Investment Co.,Ltd. တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာတောင်ညွန့် မြို့နယ်၊ အကွက်အမှတ်(13A/2-1,A2)၊ အဆောက်အဦအမှတ်(5A) ရှိ မြေ ၁၁၂၄၆ စတုရန်းမီတာ (၂.၇၇၉ဧက)အထပ်(၂၆)ထပ်ပါ The Prestige Residential Complex Project တည်ဆောက်၍အခန်းများငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်ရင်းနှီးမြှုပ်နှံသူ ဦးဆန်းသွင် (အဘ-ဦးအုန်းလှိုင်)မှမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့အဆိုပြုချက်တင်ပြလာခြင်း ဖြစ်ပါသည်။

၂။ အထက်အကြောင်းအရာပါ ကိစ္စနှင့်စပ်လျဉ်း၍ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၂၀၁၅ ခုနှစ် မေလ ၁၁ ရက်နေ့တွင်ကျင်းပသော (၁၆/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြမည့် အမှာစာ (**စာချော**) **တွင်** လက်မှတ်ရေးထိုးပေးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

၇/၅/၁၅

(စိုးသီဟ)
ဒုတိယဦးစီးမှူး

**ဦးစီးအရာရှိ**

၃။ PAT (၁၆/၂၀၁၅) သို့ တင်ပြမည့် အမှာစာ အား ပြုစုတင်ပြ အပ်ပါသည်။ 9:10 pm

6/5/15
(ဒေါ်မိုးမိုး...)

ပ/ဆ - ညွှန်မှူး

၄။ ပုဂ္ဂလိကပိုင်မြေတွင် ဆောက်လုပ်မည့် Complex Project တည်ဆောက်၍ အခန်းငှားရမ်းခြင်းဝန်ဆောင်မှုလုပ်ငန်း အဆိုပြုချက် စာချော တွင် လက်မှတ်ရေးထိုး နိုင်ပါရန် တင်ပြ အပ်ပါသည်။

(...)

Inno International Ns INV-3

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အဆိုပြုချက် စိစစ်ရေးအဖွဲ့

စာအမှတ်၊ရက-၄/န-၀၂၂/၂၀၁၅ ( ၃၃၈ )
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် မေလ ၆ ရက်

အဆိုပြုချက် စိစစ်ရေးအဖွဲ့သို့တင်ပြသည့်
အမှာစာ

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Megason Investment Co., Ltd. မှ အထပ်(၂၆)ထပ်ပါ The Prestige Residential Complex Project တည်ဆောက်၍အခန်းများငှားရမ်းခြင်းဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံ Top Home Made Foodstuff Trading Co., Ltd မှ (၅%)၊ ဦးစိုင်းလုံပေါင်းမှ (၁၇.၅ %)၊ ဦးစိုင်းဝမ်းမိုင်းမှ (၁၇.၅ %) နှင့် တရုတ်နိုင်ငံ Sichuan Jinhui Tianfu Investment Co., Ltd မှ(၆၀%)တို့ ဖက်စပ်ပြုလုပ်၍ Megason Investment Co.,Ltd. တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ အကွက်အမှတ်(13A/2-1,A2)၊ အဆောက်အဦအမှတ်(5A) ရှိ မြေ ၁၁၂၄၆ စတုရန်းမီတာ (၂.၇၇၉ဧက)တွင် အထပ်(၂၆)ထပ်ပါ The Prestige Residential Complex Project (၄)လုံး တည်ဆောက်၍အခန်းများ ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဆန်းသွင် (အဘ-ဦးအုန်းလှိုင်)မှ အဆိုပြုချက် တင်ပြလာခြင်းဖြစ်ပါသည်။

၂။ သို့ဖြစ်ပါ၍ အထပ်(၂၆)ထပ်ပါ The Prestige Residential Complex Project တည်ဆောက်၍ အခန်းများ ငှားရမ်းခြင်း ဝန်ဆောင်မှု လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်ခွင့် အတွက် တင်ပြခြင်းအပေါ် အဖွဲ့ဝင်များနှင့် ဌာနများမှ ကြိုတင်စိစစ်ချက်အရ လိုအပ်ချက်များ၊ ပြင်ဆင်ဖြည့်စွက်ရန် ကိစ္စများ၊ လုပ်ထုံးလုပ်နည်း နှင့် မညီညွတ် သည့် ကိစ္စများကို ဆွေးနွေးနိုင်ပါရန် တင်ပြအပ်ပါသည်။

(signature)

အဖွဲ့ခေါင်းဆောင် ( ကိုယ်စား )
(သန့်စင်ကြိုင်၊ ညွှန်ကြားရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

## ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Megason Investment Co., Ltd. မှ အထပ်(၂၆)ထပ်ပါ The Prestige Residential Complex Project တည်ဆောက်၍အခန်းများငှားရမ်းခြင်း ဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်ခွင့်နှင့် စပ်လျဉ်းသည့် အဓိကအချက်များ

| | | | |
|---|---|---|---|
| ၁ | ကုမ္ပဏီအမည်/ကမကထပြုသူ | - | Megason Investment Co., Ltd.<br>ဦးဆန်းသွင် (အဘ- ဦးအုန်းလှိုင်) |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - | ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>Top Home Made Foodstuff Trading Co., Ltd (မြန်မာ) ၅ %<br>ဦးစိုင်းလုံပေါင်း (မြန်မာ) ၁၇.၅ %<br>ဦးစိုင်းဝမ်းမိုင်း (မြန်မာ) ၁၇.၅ %<br>Sichuan Jinhui Tianfu Investment Co., Ltd (တရုတ်) ၆၀ % |
| | လုပ်ငန်းအမျိုးအစား | - | အထပ်(၂၅)ထပ်၊ မြေအောက်ခန်း(၁)ထပ်ပါ အဆင့်မြင့် လူနေအိမ်ခန်း စုစုပေါင်း(၄၈၄)ခန်းနှင့် အထပ်အမြင့် အဆောက်အဦ(၄)လုံးတို့ အား ငှားရမ်းခြင်း ဝန်ဆောင်မှုလုပ်ငန်း |
| ၂ | တည်နေရာ | - | ရန်ကုန်တိုင်း ဒေသကြီး၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ ၊မြေတိုင်းရပ်ကွက် အမှတ်(5A)၊ အကွက်အမှတ် ၁၃ A/၂-၁ အေ ၂ |
| | မြေအကျယ်အဝန်း | - | မြေ ၂.၇၇၉ ဧက (၁၁၂၄၆ စတုရန်းမီတာ ) |
| | မြေပိုင်ရှင် | - | ဦးစိုင်းအိုက်ပေါင်း |
| ၃ | နှစ်စဉ်မြေငှားရမ်းခ | - | US$ ၁၇.၅၀ သန်း (၂.၇၇၉ ဧက) ၁၁၂၄၆ စတုရန်းမီတာ<br>တစ်စတုရန်းမီတာလျှင် US$ ၃၁.၁၂နှုန်း ၊တစ်နှစ်လျှင် US$ ၃၅၀,၀၀၀ |
| ၄ | ဝင်ငွေ ရရှိမှု<br>(၆ နှစ်မြောက်) | - | Residential |

| စဉ် | အမျိုးအစား | အခန်းအရေ အတွက် | တစ်နှစ်ငှားရမ်းခနှုန်း(US$ သန်း) |
|---|---|---|---|
| (က) | Type A | ၂၆၄ | ၅.၇၇ |
| (ခ) | Type B | ၂၂၀ | ၁၁.၁၉ |
| | စုစုပေါင်း | ၄၈၄ | |

| | | | |
|---|---|---|---|
| ၅ | လုပ်ငန်းသက်တမ်း | - | ၅၀ နှစ် |
| ၆ | တည်ဆောက်ရေးကာလ | - | ၃ နှစ် |
| ၇ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | **US$ ၈၀.၀၀ သန်း** |
| | ထည့်ဝင်သည့် အမျိုးအစား | - | |

**US$ (သန်း)**

| | | နိုင်ငံသား မတည်ငွေရင်း | | နိုင်ငံခြား မတည်ငွေရင်း | | စုစုပေါင်း |
|---|---|---|---|---|---|---|
| | | ကိုယ်ပိုင် | ချေးငွေ | ကိုယ်ပိုင် | ချေးငွေ | |
| ငွေသား | - | ၂.၅၀ | | ၀.၁၃ | | ၂.၆၃ |
| စက်ပစ္စည်းတန်ဖိုး | - | | | ၁၆.၂၇ | | ၁၆.၂၇ |
| တည်ဆောက်ရေးလုပ်ငန်းသုံး ပစ္စည်းများ | - | | | ၃၃.၂၈ | | ၃၃.၂၈ |
| နည်းပညာပိုင်းဆိုင်ရာ | - | | | ၂.၀၀ | | ၂.၀၀ |
| အဆောက်အဦ ငှားရမ်းခြင်း | - | ၁၇.၅၀ | | | | ၁၇.၅၀ |
| အခြား | - | | | ၈.၃၂ | | ၈.၃၂ |
| **စုစုပေါင်း** | | **၂၀.၀၀** | | **၆၀.၀၀** | | **၈၀.၀၀** |

| | | | |
|---|---|---|---|
| ၈ | ဝန်ထမ်းအင်အား<br>ပြည်တွင်း<br><br>ပြည်ပ | - | ၂၅၈ ဦး<br>၁၉၀ ဦး (တစ်လလျှင် ပြည်တွင်းလုပ်သားတစ်ဦး၏ အနိမ့်ဆုံးလစာ မှာ US$ ၂၀၀၊ အမြင့်ဆုံး လစာမှာ US$ ၅၀၀၀ ဖြစ်ပါသည်။)<br>၆၈ ဦး(တစ်လလျှင် ပြည်ပလုပ်သားတစ်ဦး၏ လစာမှာ အနိမ့်ဆုံး လစာမှာ US$၁၀၀၀၊အမြင့်ဆုံးလစာမှာ US$ ၈၀၀၀ဖြစ်ပါသည်။) |
| ၉ | ဝင်ငွေ<br>အသုံးစရိတ်<br>အသားတင်အမြတ် | -<br>-<br>- | US$ ၁၁.၁၉ သန်း<br>US$ ၄.၇၁ သန်း<br>US$ ၄.၈၆ သန်း |
| ၁၀ | နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ် (၆ နှစ်မြောက်)<br>ဝင်ငွေခွန်<br>ကုန်သွယ်ခွန်<br>အရင်းကြေကာလ<br>အရင်းအနှီးအပေါ်အကျိုး အမြတ်ပြန်ပေါ်နှုန်း (IRR) | <br>-<br>- | <br>US$ ၁.၆၂ သန်း<br>US$ ၀.၅၆ သန်း<br>၁၅ နှစ်၊ ၁၁ လ<br>၆.၉၄ % |
| ၁၁ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - | 100 KVA |
| ၁၂ | ငွေကြေးအထောက်အထား | - | ကျပ်ငွေအထောက်အထားအဖြစ် ဦးဆန်းသွင်အမည်ဖြင့် KBZ Bank (Kamayut Branch) တွင် (၂၃-၄-၂၀၁၅)ရက်စွဲဖြင့် ငွေလက်ကျန် ကျပ်(၅၂.၉၄)သန်း၊ ဦးစိုင်းလုံပေါင်း အမည်ဖြင့် KBZ Bank (Pazudaung Branch)တွင် (၂၄-၄-၂၀၁၅) ရက်စွဲဖြင့် ငွေလက်ကျန် ကျပ် (၄.၅၅)သန်း နှင့် ဦးစိုင်းဝမ်းမိုင်း အမည်ဖြင့် KBZ Bank (Thuwunna Branch)တွင် (၂၄-၄-၂၀၁၅) ရက်စွဲဖြင့် ငွေလက်ကျန် ကျပ် (၅၀.၀၀)သန်း ရှိကြောင်း ဖော်ပြထားပါသည်။<br>နိုင်ငံခြားငွေ အထောက်အထားအဖြစ် (Sichuan Jinhui Tianfu Investment Co., Ltd. အမည်ဖြင့် China Construction Bank Corporation တွင် (၂၆-၁-၂၀၁၅ )ရက်စွဲဖြင့် ထည့်ဝင်ငွေ ယွမ် ၅၉,၅၀၃,၇၅၀.၉၅ ) ရှိကြောင်း တင်ပြထားပါသည်။ |
| ၁၃ | အခြားတင်ပြချက်များ | -<br><br><br><br><br><br>- | အစုရှယ်ယာထည့်ဝင်မှုအချိုးမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-<br>အစုရှယ်ယာရှင်များ ထည့်ဝင်မည့်ငွေပမာဏ US$<br>Top Home Made Foodstuff Trading Co., Ltd ၅ % }<br>ဦးစိုင်းလုံပေါင်း (မြန်မာ) ၁၇.၅ % } ၂၀.၀၀သန်း<br>ဦးစိုင်းဝမ်းမိုင်း (မြန်မာ) ၁၇.၅ % }<br>Sichuan Jinhui Tianfu Investment Co., Ltd. ၆၀% ၆၀.၀၀သန်း<br>ကုမ္ပဏီမှချေးငွေ US$ ၃၀.၀၀ သန်းအား မိခင်ကုမ္ပဏီမှ အတိုးနှုန်း ၈.၀၅% နှုန်းဖြင့် ချေးယူမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။ |
| ၁၄ | စိစစ်တင်ပြချက် | - | ဝင်ငွေ၊ နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ်နှင့် အရင်းအနှီးအပေါ် အကျိုး ပြန်ပေါ်နှုန်းတို့မှာ ကုမ္ပဏီမှတင်ပြချက်အရ ဖော်ပြထားခြင်းသာ ဖြစ်ပါသည်။ |

<table>
<tr><td></td><td></td><td>-</td><td>အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့်မြေမှာ ဂရန်ရှိ မြေအမျိုးအစား ဖြစ်ပြီး ပိုင်ရှင်ဖြစ်သူ ဦးစိုင်းအိုက်ပေါင်းမှာ ဦးစိုင်းလုံပေါင်းနှင့် ဦးစိုင်းဝမ်းမိုင်း တို့၏ ဖခင်ဖြစ်ပါသည်။ ဦးစိုင်းအိုက်ပေါင်းမှ General Power of Attorney ဖြင့် ဦးစိုင်းလုံပေါင်းနှင့် ဦးစိုင်းဝမ်းပေါင်းတို့အား လွှဲအပ်ထားပါသည်။</td></tr>
<tr><td></td><td></td><td>-</td><td>မြေငှားရမ်းခြင်း သဘောတူစာချုပ်(မူကြမ်း) တင်ပြထားပါသည်။</td></tr>
<tr><td></td><td></td><td>-</td><td>ဖက်စပ်သဘောတူ စာချုပ်တင်ပြထားပါသည်။</td></tr>
<tr><td></td><td></td><td>-</td><td>ကုမ္ပဏီမှ CSR( Corporate Social Responsibility ) အတွက် ၂ % ကို ပညာရေးလုပ်ငန်းအတွက် ၃၀% ဖြင့်လည်းကောင်း၊ ကျန်းမာရေးလုပ်ငန်း အတွက် ၃၀% နှင့် မြို့နယ်ဖွံ့ဖြိုးတိုးတက်ရေးလုပ်ငန်းအတွက် ၄၀ % ကို သုံးစွဲမည်ဖြစ်ကြောင်း တင်ပြထားပါသည်။</td></tr>
<tr><td></td><td></td><td>-</td><td>ကုမ္ပဏီမှ အဆောက်အဦတည်ဆောက်မည့်ဒီဇိုင်းနှင့် တည်ဆောက်ခွင့်အား ရန်ကုန်မြို့တော် စည်ပင်သာယာရေး ကော်မတီသို့ တင်ပြထားကြောင်း ( ၂၀-၁-၂၀၁၅ ) ရက်စွဲပါစာဖြင့် တင်ပြထားပါသည်။</td></tr>
<tr><td></td><td></td><td>-</td><td>ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းစာရင်းတွင် လုပ်ငန်းသုံးယာဉ်များနှင့် Ferry Bus အားတင်ပြထားပါသည်-
<table>
<tr><th>ယာဉ် အမျိုးအစား</th><th>အရေအတွက်</th><th>ဈေးနှုန်း US$</th><th>စုစုပေါင်း US$ (သန်း)</th></tr>
<tr><td>Truck(Cargo Vehicle)22 Wheel</td><td>၅</td><td>၈၀,၀၀၀</td><td>၀.၄၀</td></tr>
<tr><td>Truck(Cargo Vehicle)12 Wheel</td><td>၅</td><td>၇၀,၀၀၀</td><td>၀.၃၅</td></tr>
<tr><td>Dump Truck 10-20</td><td>၁၀</td><td>၆၀,၀၀၀</td><td>၀.၆၀</td></tr>
<tr><td>City Bus (25 Seater) for Ferry</td><td>၅</td><td>၇၀,၀၀၀</td><td>၀.၃၅</td></tr>
</table></td></tr>
<tr><td>၁၅</td><td>သဘောထားတောင်းခံမည့် ဌာနများ</td><td>-</td><td>ရန်ကုန်တိုင်း ဒေသကြီး အစိုးရအဖွဲ့၊ ရန်ကုန်မြို့တော်စည်ပင်သာယာရေး ကော်မတီ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန၊ အထပ်မြင့်အဆောက်အအုံ တည်ဆောက်ရေးစီမံကိန်းများကြီးကြပ်စစ်ဆေး ရေးပညာရှင်အဖွဲ့ (CQHP)၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်နှင့် မြန်မာနိုင်ငံ အင်ဂျင်နီယာအသင်း တို့သို့ သဘောထားများ တောင်းခံမည် ဖြစ်ပါ သည်။</td></tr>
</table>

ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Megason Investment Co., Ltd. မှ အထပ်(၂၆)ထပ်ပါ The Prestige Residential Complex Project တည် ဆောက်၍အခန်းများ ငှားရမ်းခြင်း ဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်ရန် ကော်မရှင် အစည်းအဝေးသို့ တင်ပြရန်ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၄-၅-၂၀၁၅ | | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး | ၁၁-၅-၂၀၁၅ | ၂၇-၅ -၂၀၁၅ | **(၁၇)ရက်** |
| | ( ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တော ရေးရာဝန်ကြီးဌာန | ၁၁-၅-၂၀၁၅ | ၂၉-၅ -၂၀၁၅ | **(၁၈)ရက်** |
| | ( ဂ) ရန်ကုန်မြို့တော် စည်ပင်သာယာရေး ကော်မတီ | ၁၁-၅-၂၀၁၅ | ၂-၆ -၂၀၁၅ | **(၂၃)ရက်** |
| | (ဃ) မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း | ၁၁-၅-၂၀၁၅ | ၂-၇-၂၀၁၅ | **(၅၁)ရက်** |
| | (င) အထပ်မြင့်အဆောက်အအုံတည်ဆောက် ရေးစီမံကိန်းများကြီးကြပ်စစ်ဆေးရေး ပညာရှင်အဖွဲ့ | ၁၁-၅-၂၀၁၅ | ၂၇-၇-၂၀၁၅ | **(၆၈)ရက်** |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၁၆/၂၀၁၅)သို့ တင်ပြခြင်း | ၁၁-၅-၂၀၁၅ | | |
| ၄ | အဆိုပြုချက်လက်ခံကြောင်းပြန်ကြားခြင်းနှင့် အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၁၆/၂၀၁၅)ဆုံးဖြတ်ချက်နှင့်အညီတင်ပြရန် အကြောင်းကြားခြင်း | ၂၁-၅-၂၀၁၅ | ၁၅-၇-၂၀၁၅ | **(၆၆)ရက်** |
| ၅ | ကုမ္ပဏီမှ သဘောထားမှတ်ချက်များနှင့်အညီ ပြင်ဆင်ချက်များကို ပြန်လည်တင်ပြလာခြင်း | ၂၁-၇-၂၀၁၅ | ၆-၈-၂၀၁၅ | **(၁၆)ရက်** |
| ၆ | ကုမ္ပဏီမှ အဆိုပြုလွှာ အစုံ(၈)စုံ ပေးပို့ခြင်း | | ၁၈-၈-၂၀၁၅ | ကုမ္ပဏီမှ PAT အစည်းအဝေးဆုံးဖြတ်ချက် အရ ပြင်ဆင်ရန်အချက်များ နှင့် သက်ဆိုင်ရာ သဘောထား မှတ်ချက်များနှင့်အညီ ပြင်ဆင်ချက်များပေးပို့ရန် ကြာမြင့်သောကြောင့် ဖြစ်ပါသည်။ |
| ၇ | ကော်မရှင်အစည်းအဝေးသို့ တင်ပြမည့် အကြိမ် နှင့်နေ့ရက် | | ၁၅/၂၀၁၅ | |
| ၈ | စုစုပေါင်းကြာမြင့်ရက် | ( ၉၇ ) ရက် | | |

